ပစ္စုပ္ပန်, အနာဂတ်ဖြစ်ရပ် ဖြစ်စဉ်များကို

ထင်ဟပ်ပေါ်လွင်စေနိုင်သော

# ရခိုင်ပြည်နှင့်ရခိုင်လူမျိုးတို့၏

# နောက်ခံသမိုင်း

**ဘဒ္ဒန္တအာဒိစ္စရံသီ**

(သာသနဓဇသီရိပဝရဓမ္မာစရိယ ၊ မဟာဂန္ထဝါစကပဏ္ဍိတ)

မြို့မပရိယတ္တိကျောင်းတိုက်

ပုဏ္ဏားကျွန်းမြို့

# ဝန်ခံချက်

ဓညဝတီအရေးတော်ပုံကျမ်း (ရခိုင်ဆရာတော်)၊ ရက္ခမဏ္ဍလ ရခိုင်ရာဇဝင် (ဦးအောင်သာဦး B.A)၊ မဟာမုဏိရာဇဝင်လင်္ကာ(ရွှေစေတီဆရာတော်ကြီး ဦးတေဇာရာမ)စာအုပ်များမှ အကျဉ်းထုတ်နှုတ်ပြုစုထားသော ဘဒ္ဒန္တအာဒိစ္စရံသီဆရာတော်ဘုရား၏ လက်ရှိုးမူကို ပင်တိုင်ပြုလျက် အောက်ပါစာအုပ်များမှကောက်နှုတ်၍ အကျဉ်းချုပ်ဖြည့်စွက်ရေးသားပါသည်။

ရခိုင်ရာဇဝင်သစ်ကျမ်း (ပ+ဒု) အရှင်စန္ဒမာလာလင်္ကာရ

လေးမြို့ခေတ်သမိုင်းမြင်ကွင်း(မင်းပြားမင်းသိန်းဇံ)

ရခိုင်သုတညွှန်ဖူးများ(အောင်လှသိန်း)

ရက္ခမှန်ဖူးရွှေမြောက်ဦးနှင့်လေ့လာချက်များ(အောင်လှသိန်း)

ပန်းဇင်းထေရိန္ဒ

မြို့မကျောင်း၊ ပုဏ္ဏားကျွန်းမြို့

မတ်လ၊ ၂၀ ရက်၊ ၂၀၂၀

# မာတိကာ


| | |
|---|---|
| ရခိုင်အစ မာရယုက | ၇ |
| ပထမဓညဝတီမြို့ | ၇ |
| နီလာပန်းတောင်း ကျောက်ပန်းတောင်းမြို့ | ၈ |
| ဒုတိယဓညဝတီမြို့ | ၉ |
| တတိယဓညဝတီ | ၉ |
| ဓညဝတီနှင့်ဒွါရာဝတီသို့ဘုရားသျှင်ကြွ | ၉ |
| ဓာတုသာသနာ (သို့မဟုတ်)စတူပါစေတီခေတ် | ၁၀ |
| ဝေသာလီကျောက်လှေကားမြို့ | ၁၁ |
| ရခိုင်သင်္ဃာယနာ ၊ ကဗျာကျမ်းနှင့်အစောဆုံးရတု/ရကန် | ၁၁ |
| မြောက်ဦး ၊ သပိတ်တောင် ၊ စမ္ပဝက်မြို့များအကြောင်း | ၁၂ |
| မိုးကြိုးကန် ၊ မိုးကြိုးနဂါး ၊ ပိတောက်စည် | ၁၂ |
| စမ္ပဝက်မြို့နာမည်တွင်ပုံ | ၁၃ |
| မြံလူမျိုးအစ ရခိုင်က | ၁၃ |
| လေးမြို့ခေတ် | ၁၄ |
| (က) ပဥ္စာမြို့ | ၁၄ |
| ပဥ္စာဟုနာမည်တွင်ခြင်းအကြောင်း | ၁၄ |
| (၂) ပုရိန်မြို့ | ၁၅ |
| ပုရိန်မြို့ဟု အမည်တွင်ခြင်းအကြောင်း | ၁၅ |
| အကြီးဆုံးမော်ကွန်းကျောက်စာ | ၁၆ |
| ဒုတိယပုရိန်မြို့ | ၁၆ |

| | |
|---|---|
| ခြိတ်မြို့ | ၁၇ |
| ခြိတ်မြို့ဟုခေါ်တွင်ခြင်းအကြောင်း | ၁၈ |
| စမ္ပဝက်မြို့ | ၁၈ |
| (၃) မြို့ဟောင်းတောင်ငူ | ၁၈ |
| နေရဉ္စရာတောင်ငူမြို့ဟု ခေါ်တွင်ခြင်းအကြောင်း | ၁၉ |
| (၄)လောင်းကြက်မြို့ | ၁၉ |
| နန်းကျကြီးဘုရင် | ၂၀ |
| မင်းထီး(သို့)သက်တော်ရှည်ဘုရင်ကြီး | ၂၁ |
| မြောက်ဦးခေတ် | ၂၂ |
| ပထမမြောက်ဦးခေတ် | ၂၃ |
| မြောက်ဦးမြို့ | ၂၃ |
| ဒုတိယမြောက်ဦးခေတ် | ၂၄ |
| မင်းပါကြီး (ခ) သီရိသုဓမ္မရာဇာ | ၂၄ |
| မင်းဖလောင်း | ၂၅ |
| သျှစ်သောင်း၊ ကိုးသောင်း၊ ထုက္ကန်သိမ် | ၂၆ |
| ရွှေခေတ်မြောက်ဦး | ၂၇ |
| တတိယမြောက်ဦး | ၂၉ |
| မဟာသမ္မတမင်း (သို့) ရခိုင်ပြည်၏နောက်ဆုံးဘုရင် | ၃၁ |
| လေးမြို့ဝန်ခေတ် | ၃၃ |
| ထင်ရှားခဲ့သော ရခိုင်မင်းများ | ၃၅ |
| နှစ် အခေါ်အဝေါ်များအကြောင်း | ၄၇ |

## နမော သဗ္ဗညုဿ သကျဝံသဿ

## “ရခိုင်အစ မာရယုက”

ဗုဒ္ဓဘုရားရှင် မပွင့်မီ သက္ကရာဇ် - ၆၇၉၈ - ခုနှစ်ခန့်က မဇ္ဈိမဒေသမှ သာကီဝင်မင်းမျိုး **အဇ္ဇုနမင်း**သည် ထီးနန်းစည်းစိမ်ကို ငြီးငွေ့လျက် တောထွက်တော်မူလာခဲ့ရာ ၊ **ဖြူဟွဲပုတြ**မြစ် အရှေ့ဘက် ၊ ရခိုင်ပြည်၏ မြောက်ဘက်ကုလားတန်မြစ်ဖျားခံရာအရပ်၌ သီတင်းသုံးနေစဉ် ၊ ပုထုဇ္ဇဉ်သား ဖြစ်သည့်အလျောက် **ဣန္ဒမာယု** မည်သော သာကီနွယ်ဖွား အမျိုး သမီးတဦးနှင့် ပေါင်းဖက်ဆက်ဆံမိလေသည်။

**မှတ်ချက်** ။ ။ <u>ဣန္ဒမာယုကို အချို့ရာဇဝင်တို့၌ **ဆတ်မ**ဖြစ်လေဟန် ရေးသားကြ၏။ အမှန် မှာကား ဆတ်မမဟုတ်ပေ။ **သကျအမျိုးသမီး**တဦးသာ ဖြစ်လေသည်။ သကျကို အိန္ဒိယ အသံဖြင့် **ဆကျ** ဟု အသံထွက်၍ ထိုမှတဆင့် တဖြည်းဖြည်း ရွေ့လျားလာရာမှ **သကျ** အမျိုးသမီးကို **ဆကျ/ဆတ်မ** ဟု ပြောင်းလဲခေါ်ဝေါ်လာဟန်ရှိသည် ။</u>

## “ပထမဓညဝတီမြို့”

## (ပထမဓညဝတီခေတ် ဘီစီ ၃၃၂၅ - ဘီစီ ၁၅၀၇)

ထိုအချိန်က အိန္ဒိယမှ **အာရိယန်**လူမျိုးများ**ဖြူဟွဲပုတြ**မြစ်ဝှမ်းနှင့် **ဂင်္ဂါ** မြစ်ဝှမ်း တလျှောက်လုံးတွင် နေထိုင်လေ့ရှိကြရာ အဇ္ဇုနမင်းသည် **ဣန္ဒမာယု** မည်သော အမျိုးသမီးနှင့် ပေါင်းဆုံမိခြင်း ဖြစ်လေသည်။ ထိုဣန္ဒမာယု

မည်သော အမျိုးသမီးမှ **မာရယု**မည်သော သားငယ် တဦးကိုဖွားမြင်၍ ကြီးပြင်းလတ်သော် ထိုမာရယုမည်သော မင်းသားသည် **ပထမ ဓညဝတီ** မြို့ကို တည်ထောင် ဖန်ဆင်းလေသည် ။

**'မင်းဆက် ၅၇-ဆက် ။ နန်းစံနှစ် ၁၈၁၈ - နှစ် စိုးစံအုပ်ချုပ်သောကာလသည် ပထမဓညဝတီခေတ်'**

## "နီလာပန်းတောင်း ကျောက်ပန်းတောင်းမြို့"

ထိုမာရယုမင်း ကွယ်လွန်လျှင် မင်းငယ်**ပျော်လှစည်သူ**မင်းပြု၍ ၊ ထိုမင်းလွန်ပြီးနောက် မိဖုရား**စောစစ်**သည် **နီလာပန်းတောင်းမြို့**ကို တည်ထောင် ဖန်ဆင်း လေသည်။ ထိုအချိန်တွင် **မဇ္ဈိမဒေသ ကပိလဝတ်**မှ **ပဥ္စာလမင်း**၏ ဘေးရန်ကြောင့် **အဘိရာဇာမင်း**သည် ဗိုလ်ခြေများစွာနှင့် ထွက်ခွါ တိမ်းရှောင်လာခဲ့၍ **တကောင်းမြို့**ကို တည်ထောင်လေသည်။ ထိုမင်းကွယ်လွန်သော် သားတော် **ကံရာဇာကြီး ၊ ကံရာဇာငယ်** ညီနောင် ၂ - ဦးတို့သည် နန်းလုကြရာတွင် ညီကံရာဇာငယ် နန်းရ၍ ကံရာဇာကြီးမှာ ရှုံးနိမ့်သဖြင့် ထိုအရပ်မှ ထွက်ခွါလာခဲ့ရာ **တောင်ညို**အရပ်တွင်နေစဉ် - **ပျူ**တို့က မင်းတောင်းလာသောကြောင့် သားတော် **မုဒုစိတ္တ**ကို ထိုအရပ်၌ မင်းပြုစေ၍ ကံရာဇာကြီးသည် **ဖိုးခေါင် တောင်**ကို ကျော်ဖြတ်ကာ **ရခိုင်ပြည်**အရပ်သို့ ရောက်ပြီး **ကျောက်ပန်းတောင်း မြို့**ကို တည်ထောင်လေ၏။

# "ဒုတိယ ဓညဝတီမြို့"

# (ဒုတိယဓညဝတီခေတ် - ဘီစီ ၁၅၀၇ - ဘီစီ ၅၈၀)

ကံရာဇာကြီးသည် မိဖုရား စောစစ် ရှိနေသည်ကို ကြားသိရသဖြင့် သမီးတော် ၂ - ပါးကို သိမ်းယူ၍ စောစစ်ကို ယောက္ခမအရာ၌ထားကာ သက္ကရာဇ် (၇၈၄၃) ခုနှစ်တွင် **ဒုတိယ ဓညဝတီမြို့**ကို တည်ထောင်လေသည်။

**'မင်းဆက် ၂၄ - ဆက် ၊ နန်းစံနှစ်ပေါင်း (၈၃၀) ကာလသည် ဒုတိယဓညဝတီခေတ်'**

## တတိယဓညဝတီခေတ် (ဘီစီ ၅၈၀ - အေဒီ ၃၂၇)

## "ဓညဝတီနှင့်ဒွါရာဝတီသို့ ဘုရားသျှင်ကြွ"

ကံရာဇာကြီး အနွယ် (၂၈) ဆက်မြောက် ၊ **သီရိရာဇာမင်း**၏ သား **စန္ဒသူရိယ** မင်းဖြစ်လာ၍ ၊ ယင်းမင်းလက်ထက် သက္ကရာဇ် (၇၂၁၃) ခုနှစ်တွင် ဗုဒ္ဓဘုရားသျှင်သည် နောက်ပါ **သံဃာတော်ငါးရာ**နှင့်တကွ ကောင်းကင်ခရီးဖြင့် ကြွလာတော်မူလတ်ကာ **ကျောက်တော်** တောင်ထိပ်၌ ရပ်နားတော်မူလျက် ကိုယ်စားတော် **မဟာမုနိရုပ်ပွါးတော်**နှင့် ဓာတ်တော် မွေတော်များ ကိန်းဝပ်တော်မူမည့်အကြောင်း ဗျာဒိတ်ကြားတော်မူလေသည် ။

ထိုမှတခါ **ဒွါရာဝတီသံတွဲ**မြို့သို့ကြွချီပြီး **အံတော်,နံတော်,ဆံတော်ဓာတ်** ကိန်းဝပ်မည့် နေရာများကို ဗျာဒိတ် ထားတော်မူခဲ့လေသည် ။ သံတွဲ ပြည်သူ ပြည်သား တို့သည် မဟာမုနိ ဘုရားသွန်းစက်ကို အတုယူကာ နောင်ပွင့်တော်

မူမည့် **အရိမေတ္တေယျသဏ္ဍာန်** ရုပ်တော်မူ ရွှေဆင်းတုတော်တစ်ဆူကို သွန်း လုပ်ကြလေသည်။

**မှတ်ချက်။ ။** ထိုအချိန်မှစ၍ ဗုဒ္ဓသာသနာတော်သည် ရခိုင်ပြည်သို့ တိုက်ရိုက် သက်ရောက်နေပြီဖြစ်ကြောင်း သိသာထင်ရှားပေသည်။ သီဟိုဠ်, တိဘက် စသည် တို့မှ ဆင်းသက်လာခြင်းမျိုး မဟုတ်ပါ။

## ဓာတုသာသနာ (သို့) စတူပါစေတီခေတ်

စန္ဒသူရိယမင်း၏ ငါးဆက်မြောက်အနွယ်တော် ဖြစ်သော **သူရိယစက္က** ဘုရင်လက် ထက်တွင် မဇ္ဈိမဒေသ(အိန္ဒိယ)မှ ရဟန်းတော်များ ဓာတ်တော် များနှင့် အတူ ကြွလာကြသောကြောင့် ရခိုင်ပြည်၌ ဓာတ်တော် ကိုးကွယ်သော ခေလ့ (ဝါ) **ဓာတုသာသနာ** သည်စတင်ကျယ်ပြန့်ခဲ့သည် ဆိုရမည်ဖြစ်သည် ။ အဆိုပါ ဓာတ်တော်တို့ကို ထည့်သော ကျောက်စေတီ ပုံစံငယ် များကို **စတူပါ** ဟုခေါ်သည် ။ ဓာတ်တော်ထည့်ထားသော စတူပါတို့ ကို ကိုးကွယ်သောကြောင့် စတူပါစေတီ ကိုးကွယ်သော ခေတ်ဟုလည်း ဆိုနိုင် သည်။

သူရိယစက္ကဘုရင် တည်ထား ကိုးကွယ်တော်မူသော စေတီငယ် (စတူပါ) များမှာ ရာဇဝင်အလို နွားလား ဥဿဘတမော့ (၉ - ပေ) စီရှိသည် ဟူ၏ ။

**'စန္ဒသူရိယမင်း နန်းတက်သည်မှစ၍ သူရိယကေတုမင်းလက်ထက်ထိ မင်းဆက် - ၂၅ ဆက် ၊ နန်းစံနှစ်ပေါင်း - ၉၀၆ နှစ်သည် တတိယဓညဝတီခေတ်'**

## **"ဝေသာလီကျောက်လှေကားမြို့"**
## **(ဝေသာလီခေတ် အေဒီ ၃၂၇ - ၈၁၈)**

တတိယဓညဝတီ နောက်မင်းဆုံးမင်းဖြစ်သော ဘုရင်သူရိယကေတု ၏သား **မဟာစန္ဒြားမင်း** နန်းတက်ပြီးနောက် ဓညဝတီမှပြောင်းရွှေ့ကာ **ကံသုံးဆင့်မြို့**ကို တည်ထောင် လေသည် ။ ထိုမြို့၌ အခန့်မသင့်သောကြောင့် **ဝေသာလီကျောက်လှေကားမြို့**ကို တည်ထောင်တော်မူလေသည် ။

ယင်းမင်း ခြောက်ဆက်မြောက်အနွယ်တော်ဖြစ်သော **သီရိစန္ဒြားမင်း** လက်ထက်၌ ရခိုင်ပြည်၏ လက်အောက်ခံဖြစ်သော **အနောက်သူရတန် ပဆာကုလားမင်း**သည် အခွန်ဘဏ္ဍာ မဆက်သလာသဖြင့် စစ်ချီနှိမ်နင်းခဲ့ရာ အောင်မြင်ခဲ့၍ ကုလားမင်းသည် သူ၏သမီးတော် နှစ်ပါးဖြစ်သော **ဒံရမာဇာလီ၊ ဒူရဘီ**တို့ကို ဆက်သလျက် ရခိုင်မင်း၏ လက်အောက်ခံအဖြစ် နေလေသည် ။

## **ရခိုင့်သင်္ဃာယနာ ၊ ကဗျာကျမ်းနှင့် အစောဆုံးရတု/ရကန်**

သီရိစန္ဒြားမင်းကြီး လက်ထက်တွင် အနောက်သူရတန်ပြည်ကို စစ်ချီ အောင်မြင်ခဲ့သော သားတော် **သိင်္ဂစန္ဒြား** ၏ ကြင်ယာတော်ဖြစ်သော နှမရင်း ဖြစ်သူ **သုဝဏ္ဏဒေဝီ** (ခ) **စောပြည့်ညို**က ရေးဖွဲ့ပေးပို့သော **သိန်ကန်မိန်တွင်** အစချီရတု/ရကန်မှာ မြန်မာနိုင်ငံတွင် အစောဆုံး ဖြစ်ပြီး ၊ ထိုမင်းသမီးကပင် **ကဝိဗန္ဓုသာရ**ကျမ်း နှင့် **ကဝိဂဏ္ဍပါသာဏကျမ်း** တို့ကို ရေးဖွဲ့ခဲ့သည်ဟု ဆိုသည် ။

မင်းကြီးသည် သာသနာတော်ကို အထူး အလေးထား ဆောင်ရွက်ကာ သိန်းဃိုပြည်မှ သင်္ဃာတော်များ ပါဝင်စေလျက် ရခိုင် သင်္ဃာတော်များနှင့်တူ

ဝေသာလီအရပ် **ရွှေတောင်** ကို မြေညှိလျက် ကြီးကျယ်သော သင်္ဂါယနာကို တင်နိုင်ရန် အဓိကအထောက်အပံ့ပေးခဲ့လေသည် ။

## "မြောက်ဦး ၊ သပိတ်တောင် ၊ စမ္ပဝက်မြို့များအကြောင်း"

ဝေသာလီ ကျောက်လှေကားမြို့ကို တည်ထောင်ခဲ့သော မဟာစန္ဒြား မင်းကြီး၏ ကိုးဆက် မြောက်ဖြစ်သော အနွယ်တော် **စူဠစန္ဒြား**မင်းကြီး နတ်ရွာ စံလေသော် **မြို**လူမျိုး '**အမြတူ**'က တိုင်းပြည်ကိုအုပ်ချုပ်သည်။ ထိုအမြတူ၏ တူဖြစ်သော **ပဲဖြူမင်း** နန်းရလာ သောအခါ ဝေသာလီ ကျောက်လှေကားမြို့မှ ပြောင်းရွှေ့ကာ **မြောက်ဦးမြို့** ကိုတည်လေ သည်။ ထိုမြို့၌ (၁၇) နှစ်မျှနေပြီး နောက် **ယိုးချောင်း**ဖျားသို့ ပြောင်းရွှေ့ကာ **သပိတ်တောင်** ၌ မြို့သစ်တည်လေ သည်။

မြောက်ဦးမြို့၌ ကျန်ရစ်ခဲ့သော စူဠစန္ဒြားမင်းကြီး၏ သားတော် **ငတုံမင်း** ကို **သက်** လူမျိုးတို့က မွေးစားပြီးနောက် မင်းပြုစေကာ **စမ္ပဝက်မြို့**ကို တည်ထောင်လေသည်။

## "မိုးကြိုးကန် ၊ မိုးကြိုးနဂါး ၊ ပိတောက်စည်"

ငတုံမင်းသည် ဘုန်းတန်ခိုးကြီးသောကြောင့် အစွမ်းရှိထသော **ပိတောက် စည်**ကို ရလေသည် ။ စမ္ပဝက်မြို့ရှိ **မိုးကြိုးကန်**၌လည်း ဘုရင်၏ အာနုဘော် ကြောင့် နဂါးတစ်ဦး လာနေလေသည် ။ ပိတောက်စည်ကို တစ်ကြိမ် တီးခတ်လျှင် အရှေ့**ပုဂံပြည်** တနေ့ သုံးကြိမ် လန့်ဖျတ်၍ ပြိုသည်ဟု အဆိုရှိ သည် ။

# စမ္ပဝက်မြို့နာမည်တွင်ပုံ

မိုးကြိုးကန်၌နေသော နဂါးကို **ပုဂံမှ စောခင်နှစ်မင်း**က သူလျှိုလွှတ်ကာ အတတ်ဖြင့် နှင်ထုတ်သောကြောင့် နဂါးမှာ **မာန်အောင်ကျွန်း**သို့ ထွက်ပြေးလားသည်ဟု ဆို၏။ ထို နဂါးနေထိုင်သောအရပ်၌ မြို့တော်ကို တည်ထောင်ရာ နဂါးစမ်းပွက်ရာ အရပ်တို့ ရှိသည်ကို အကြောင်းပြုကာ စမ္ပဝက်မြို့ (**စမ်းပွက်မြို့**) ဖြစ်လာသည်။ ထိုမြို့တည်ရာ အရပ်ကို **ရေစမ်းကြီးပြင်** ဟုလည်း ခေါ်သည်။

**'မဟာစန္ဒြားမင်းမှ စူဠစန္ဒြားမင်း၏သား ငတုံးမင်းလက်ထက်အထိမင်းဆက် (၁၂) ဆက် နန်းစံနှစ်ပေါင်း - ၄၉၁ နှစ်သည် ဝေသာလီခေတ်'**

## "မြို့လူမျိုးအစ ရခိုင်က"

**စူဠစန္ဒြားမင်း**သည် **ဓမ္မဇေယျအမတ်ကြီး**နှင့် ဟံသာဝတီ ၊ ပဲခူး စသောအရပ်များသို့ တိုင်းခန်းလှည့်၍ ပြန်လာရာမှာ **မော်တင်**အရပ်၌ သင်္ဘောပျက်၍ ဘုရင်မင်းမြတ် နတ်ရွာစံခဲ့ရာမှ အသက်ရှင်ကျန်ရစ်သော အမတ်ကြီးအား 'ဓမ္မဇေယျအမတ်ကြီးသည် ဘုရင်ကို သတ်၍ နတ်လုရန် ကြံသည်' ဟု ပြည်သူများ ထင်ယောင်မှားကြသည့်အတွက် နေပြည်တော်သို့ ဝင်ခွင့်မပြုကြသောကြောင့် **ကစ္ဆပနဒီ**မြစ်ညာသို့ဆန်တက်၍ ထို၌ မြို့ရွာ အရပ်ရပ်တို့ကို တည်ထောင်နေလေရာ - ယခု ယင်းအနွယ်အဆက်မှာ မြို့ လူမျိုးများ အဖြစ် သို့ ရောက်ရှိနေပေသည်။

## “လေးမြို့ခေတ်(အေဒီ ၈၁၈ - ၁၄၃၀)”

### (၁)ပဥ္စာမြို့(အေဒီ ၈၁၈ - ၁၁၀၃)

စူဠစန္ဒြားဘုရင်၏တူ **စန္ဒကူးမင်း**၏သား ဖြစ်သော **ခေတ္တသင်** မင်းသားသည် စမ္ပဝက် မြို့၏ ဘုရင်ဖြစ် လေသောအခါ **ပဥ္စာ**မြို့ကို ထပ်မံတည်ထောင်ပြီး ထီးနန်းစိုးစံလေသည်။

### ပဥ္စာမြို့ဟုနာမည်တွင်ရခြင်းအကြောင်း

“ငါးမည်အင်္ဂါ ၊ ပြည့်စုံပါသား ၊ ပဥ္စာခေါ်ထ ၊ မြို့သိင်္ဂကို” ဟူသော အဆိုဖြင့်လည်းကောင်း ၊ “အခြင်းအရာ ၊ ဖြည့်တင်းရာကြောင့်၊ ပဥ္စာခေါ်တွင် ၊ မြို့ရွှေစင်ကို”ဟူသော အဆိုဖြင့်လည်းကောင်း အင်္ဂါ ငါးပါးနှင့်ပြည့်စုံသော မြို့ဖြစ်သော ကြောင့် ပဥ္စာမြို့ဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ထိုအင်္ဂါ ငါးပါးမှာ -

၁ ။ မင်းကျင့်တရားနှင့်ပြည့်စုံခြင်း

၂ ။ ရာသီဥတုကောင်းမွန်၍ ကောက်ပဲ သလဲနှင့် ပြည့်စုံခြင်း

၃ ။ တိုင်းပြည်သည် နိုင်ငံရပ်ခြားများနှင့်ဆက်ဆံခြင်း

၄ ။ ရှေ့မင်းတို့ပူဇော်သော ဓာတ်မွေတော်တို့ဖြင့် ပြည့်စုံခြင်း

၅ ။ မြို့သစ်တည်သောအခါ ရဟန်းတော် (၈၀၀)ဖြင့် ပရိတ်ကမ္မဝါစာ ရွတ်ဖတ်ကာ ပြီးစီးစေခြင်း ။

**“စူဠစန္ဒရားဘုရင်၏တူ စန္ဒကူးဘုရင်၏သား ခေတ္တသင်ဘုရင်လက်ထက်မှ မင်းဘုန်သန်ဘုရင်၏သား မင်းပတိဘုရင်လက်ထက်ထိ မင်းဆက် (၁၅) ဆက် ၊ နန်စံနှစ်ပေါင်း - ၂၈၅ သည် ပဥ္စာခေတ်”**

## (၂) ပုရိန်မြို့(အေဒီ ၁၁၀၃ - ၁၁၆၃)

စန္ဒကူးမင်း၏ အနွယ် (၁၁) ဆက်မြောက်ဖြစ်သော **မင်းဘီလူး** ဘုရင်၏ သား **မင်းရဲဘာယ**သည် ခမည်းတော် လုပ်ကြံခံရသည့်အတွက် **ပုဂံ**ပြည် **ကျန်စစ်မင်းကြီး** ထံတွင် ခိုလှုံ၍ **လက်ယာမင်းနန်** အမည်ရှိသော သားတစ်ယောက်ကို ဖွားမြင်သည်။ ကျန်စစ်သား မင်း၏မြေးတော်ဖြစ်သော **အလောင်းစည်သူမင်း** နန်းတက် လာသောအခါ ရခိုင်ပြည်ကို တိုက်ခိုက် သိမ်းပိုက်ပေးကာ လက်ယာမင်းနန် ကို နန်းတင်လေသည်။

ဤမင်းလက်ထက်တွင် မြို့သစ်ရှာဖွေကာ **အဥ္စနနဒီ**(**လေးမြို့**)မြစ်၏ အနောက်ဘက်အရပ်တွင် ကြာတို့ ကြက်ဘီသကဲ့သို့ နေရာရှိသောအရပ်တွင် မြို့သစ်တည်ကာ **လောင်းကြက်မြို့**ဟု အမည်မှည့်စေသည်။ (ယခုတိုင် တွင်သော အမည်) ထိုမြို့၌ လူအသေ အပျောက် များသောကြောင့် နောက်ထပ်တဖန် မြို့သစ်တစ်ခုကိုတည်ခဲ့ရာ ထိုမြို့မှာ **ပုရိန် မြို့** ဖြစ်လာသည်။ (ဤကား ပထမပုရိန်)

## ပုရိန်မြို့ဟု နာမည်တွင်ရခြင်းအကြောင်း

ပုရိန်မြို့ကိုတည်ရန်အတွက် တည်နေရာအနေအထားကို ကြည့်သော အခါ ညောင်ပင်တစ်ပင်မှ **ရုက္ခစိုး**သည် ကုလားအယောင်ဆောင်လျက် ပါးရိန် ပါးရိန် ဟူသော အသံပြုသည်ကို အတိတ်နိမိတ်ယူလျက် မြို့နာမည်ကို အမည် ပေးခြင်း ဖြစ်လေသည်။ ဤအရပ်၌ **ပါးရီတော်ခေတ်** ၊ **နားရီတော်ခေတ်**များ ကိန်းဝပ်လျက်ရှိသောကြောင့် ပုရိန်မြို့ဟု ခေါ်တွင်ခြင်းဖြစ်ကြောင်းဆိုသည်။

## အကြီးဆုံးမော်ကွန်းကျောက်စာ(လောင်းကြက်တောင်မော်ကျောက်စာ)

လက်ယာမင်းနန် ဘုရင်မှသည် ငါးဆက်မြောက်ဖြစ်သော ဘုရင် **ကောလိယ** ၏ လက်ထက်သို့ရောက်သောအခါ တိုင်းနိုင်ငံစည်ပင်ခြင်း ၊ ဖီး ဘယာ ကင်းခြင်း ၊ လက်နက်အင်အား ဓနအင်အား လွန်စွာတိုးပွါးခြင်းသို့ ရောက်ပြီး အာဏာဖြန့်ကြက်ရာ နယ်ပယ်တို့ သည်လည်း လွန်စွာ ကျယ်ပြန့်ခဲ့ လေသည်။ဤမင်းသည် မြို့နှင့်မဝေးသော**စန္ဒပဗ္ဗတတောင်** ၌ **ကလေးမင်း** ၊ **မိုးညင်းမင်း** ၊ **မိုးကောင်းမင်း** ၊ **ကသည်းမင်း** ၊ **အုန်းပေါင်မင်း** ၊ **ယွန်းမင်း** ၊ **တလိုင်းမင်း** ၊ **ဇင်းမယ်မင်း** ၊ **သူရတန်မင်း** ၊ **ဟစ်ရုံမင်း**တို့ကို တာဝန်ခံစေလျက် **မဟာထီး** ဘုရားကို တည်ထားခဲ့ကြောင်း ကျောက်စာရှိသည်။

ကောလိယမင်းကြီး၏ အလှူမှတ်တမ်းတို့ကို **ကောလိယတောင်**ပေါ်တွင် တတောင်လုံးနီးနီး ရေးထိုးထားခဲ့သည်ကို ယနေ့တိုင် တွေ့နိုင်လေသည် ။ အလှူမှတ်တမ်းမော်ကွန်း တို့တွင် အကြီးဆုံး ကျောက်စာလည်း ဖြစ်သည်။

## မင်းဘီလူးဘုရင်၏ မြေး လက်ယာမင်းနန်လက်ထက်မှ မင်းပတိဘုရင်ထိ မင်းဆက် (၆) ဆက် ၊ နန်းစံနှစ်ပေါင်း - ၂၀ သည် ပထမပုရိန်ခေတ်

## ဒုတိယ ပုရိန်မြို့

ကောလိယမင်းကြီး လွန်သောအခါ သားတော်ဖြစ်သော **ဒသရာဇာမင်း** သည် မျောက်သားတော် **ရာမာဒေဝီ**ကို မိဖုရားမြောက်လျက် ထီးနန်းကို စိုးအုပ်သည်။ ဆယ်ဆက် မြောက်သော လုံ့စကြာ ပိုင်သျှင်ဖြစ်သောကြောင့် ဒသရာဇာမင်း ဟူသော အမည်ကို ရလေသည် ။ ပညာရှိအမတ် နှင့်

စစ်သည်ဗိုလ်ပါရဲမက်တို့လွှန်စွာများပြားလျက် တိုင်းပြည်သည်လည်း ရန်စမရှိ၊ အပူအပင်မရှိဘဲ လွန်စွာအေးချမ်းမှုရှိလေသည် ။

ပျောက်ဆုံးနေသော **မဟာမုနိစက်**ကို မြို့သင်းကြီးဖြစ်သော **ရဟောင်လာ အဘောင်လာ** တို့၏ အကူအညီကိုရယူရှာဖွေကာ ယခုမြင်ရသော ကုန်းပေါ်သို့ ပင့်ဆောင်ကာ ကိုးကွယ်ဆည်းကပ်မှုကို ပြုလေသည် ။ ဘုရားအနီး၌ ရန် အပေါင်းတို့ မပြုစိမ့်သောငှါ အရပ်ရှစ်မျက်နှာတို့၌ အကာကြီး **စံကားပန်းပင်** ၊ **စံကားဝါပင်** ၊ **စံကားစိမ်း** တို့ကို နံ့သင့်သူ ဆရာရှစ်ယောက်တို့ကိုစိုက်စေသည် ။ ဘုရားပရဝုဏ် သန့်ရှင်းသပ်ယပ်မှုနှင့် ဖီးကင်းလုံခြုံ မှုတို့ကို အထူး အလေးပေး ဆောင်ရွက်ခဲ့သည် ။

ရခိုင့်ရာဇဝင် မှတ်တမ်း၌ ဒသရာဇာ ဘုရင်ကြီး၏ အံချီးဖွယ် ကောင်းလောက်အောင် ခမ်းနားကြီးကျယ်သော ရာဇဘိသေက မင်္ဂလာ မှတ်တမ်း ကို တွေ့နိုင်သည် ။ အသက် (၁၄) နှစ်တွင် ဘုရင် ဖြစ်လာသူဟုလည်း မှတ်တမ်းတင်ထားသည် ။

## ဖြိုပ်မြို့

ဒသရာဇာဘုရင်ကြီး၏ သားတော် **မင်းဖုန်းစား**ကို မရီးတော် **သမာဓိ**နှင့် မိဖုရား အရာမှာထားကာ ပြည်သူမှူးမတ်တို့က ဘုရင်အဖြစ် ၅၀၄ ခုနှစ်တွင် ဘိသိက်သွန်းကာ အုပ်ချုပ်စေသည်။ (အစ်ကိုတော်ဖြစ်သူ **အနန္တသီရိ**ကို ကြောက်သောကြောင့် သင်းပိုင် သက်န်းကို ဝတ်၍ တောင်းရမ်း စားသောက် လျက် နေခဲ့သည်ကို အကြောင်းပြုကာ မင်းဖုန်းစားဟု ခေါ်ကြခြင်းဖြစ်သည်) ထိုမင်း လက်ထက်တွင် ပုရိန်မြို့သည် ပျက်သုဉ်းလေသောကြောင့် ထိုမှ

ထွက်ခွါကာ **ခြိပ်ချောင်း**ဖျား၌ **ခြိပ်မြို့**ကို တည်ထောင်လေသည် ။ ပြည်သူပြည်သားတို့အား ရင်ဝယ်သား ကဲ့သို့ချစ်ခင်ကာ အခွန်အတုပ်များကိုလည်း ညှာတာကာ ကောက်ခံသောကြောင့် တိုင်းသူပြည်သားတို့၏ ချစ်ခင်မြတ်နိုးမှုကို ရကာ တိုင်းပြည်လည်း လွန်စွာဝပြောသာယာသည် ။

## ခြိတ်မြို့ဟု ခေါ်တွင်ခြင်းအကြောင်း

ခြိတ်ချောင်းရှိရာ အရပ်၌ တည်ခဲ့သောကြောင့် ထိုချောင်းကို အစွဲပြုလျက် ခြိတ်မြို့ဟု ခေါ်တွင်သည် ။ ထိုအရပ်၌ **ဘီလူး ငခြိတ်မောင်နှမ** အပိုင်စားရသော နယ်နိမိတ်၌ မြို့တည်သောကြောင့် ခြိတ်မြို့ဟု ခေါ်တွင်ခြင်းဖြစ်သည်။

## စမ္ပဝက်မြို့

မင်းဖုန်းစားဘုရင်၏ အနွယ်တော် နှစ်ဆက်မြောက်ဖြစ်သော **ဓနရူပေါ** မင်းအုပ်ချုပ်၍ သုံးနှစ်မြောက်သောအခါ ဆင်မြင်း ကျွဲနွားစသော ခြေလေးချောင်း သတ္တဝါတို့ လွန်စွာသေကြေပျက်စီးကြခြင်းကြောင့် ထိုမှခွါကာ စမ္ပဝက်မြို့ကို သက္ကရာဇ် - ၅၁၆ ခုနှစ်တွင် တည်ထောင်သည် ။

## (၃) မြို့ဟောင်း တောင်ငူ

သက္ကရာဇ် - ၅၂၃ ခုနှစ်တွင် ဓနရူပေါမင်း၏ သားတော် **မဥ္ဇူသင်**မင်းသည် နှမတော်ရင်း**ရွှေစင်ပြောင်**ကို မိဖုရားမြှောက်လျက် ဘုရင်ဖြစ်လာသည် ။ ဘုရင်

ဖြစ်ပြီး နှစ်နှစ်မြောက်သောအခါ စမွဝက်မြို့မှခွါကာ မြို့ဟောင်း **တောင်ငူ၌ ဝါးတပ်မြို့**ပြုလုပ်၍ နေတော်မူသည် ။

တိုင်းသူပြည်သားများ လွန်စွာ ချစ်ခင်ကြသောကြောင့် **တိုင်းချစ်မင်း** ဟူသော အမည်ကို ရသည်။ တိုင်းပြည် နယ်နိမိတ်ကိုလည်း ချဲ့ထွင်ခဲ့ပြီး သာသနာတော်လည်း ထူးကဲစွာ ချီးမြှောက်တော်မူသည် ။ ဤဘုရင်၏ ကောင်းမှုမှတ်တမ်းကျောက်စာများ၌ **ရခိုင်ဘုရင်ကောင်းမှုတော်** ဟူသော အမည်ကို ရေးထိုးလေ့ရှိသည်။

## နေရဥ္စရာ တောင်ငူမြို့ဟု ခေါ်တွင်ခြင်းအကြောင်း

ပြိုင်းတိုင်တောင်တန်း၏ အငူအစွန်းအနီး၌ တည်ထားသော မြို့ဖြစ်သော ကြောင့် တောင်ငူမြို့ဟု အမည်တွင်လေသည်။ အိန္ဒိယနိုင်ငံ နေရဥ္စရာမြစ်ကမ်း နှင့်တူစွာပင် မြစ်ဝှမ်းလွင်ပြင်၌ တည်ထားသော တောင်ငူမြို့လည်း ဖြစ်ရာကား နေရဥ္စရာတောင်ငူဟု ဝိသေသတပ်ကာ ခေါ်ဝေါ်ကြသည်။ နေရဥ္စရာဆိုသည်မှာ ရွှံ့နွံကင်းသောမြစ်ဟု အဓိပ္ပါယ်ရလေသည် ။

## ဒုတိယပုရိန်မြို့တည်ဘုရင် ဒသရာဇာ လက်ထက်မှ ငနှလုံးမင်း လက်ထက်ထိ မင်းဆက် (၂၁) ဆက် ၊ နန်းစံနှစ်ပေါင်း - ၁၂၇ နှစ်သည် ဒုတိယပုရိန်ခေတ်

## (၄) လောင်းကြက်မြို့ (အေဒီ ၁၂၅၁ - ၁၄၃၀)

သက္ကရာဇ် - ၆၁၂ ခုနှစ်တွင် ငနှလုံးမင်း၏ သားဖြစ်သော **အလောမာဖြူ** မင်းသည် မိဖုရား **စောရွှေသစ်**နှင့်တိုင်းပြည်ကို အုပ်ချုပ်စိုးစံသည်။ ထိုမင်း၏

လက်မွေး ခြေမွေးတို့သည် ဖြူဖွေးကာ လက်နှစ်သစ်စီရှည်သည်သောကြောင့် **အလောမာဖြူ** [1]ဟူသောအမည်ကို ရသည်။

ဘုရင်သည် တောင်ငူမြို့၌ တစ်နှစ်ခန့်မျှစိုးစံကာ **လောင်းကြက်မြို့**ကို တည်ထောင်သည်။ တိုင်းပြည်ကို စစ်ရေး ၊ စီးပွါးရေး တောင့်တင်းခိုင်မာအောင် ကြပ်မတ်ခဲ့ပြီး ဗုဒ္ဓဘာသာကိုလည်း အလေးထားကာ ပြည်သူပြည်သားတို့၏ ချစ်ခင်မှုကို ခံရသော ဘုရင်တပါးလည်း ဖြစ်သည်။

## နန်းကျကြီးဘုရင်

အလောမာဖြူဘုရင်၏ ငါးဆက်မြောက်ဖြစ်သော **နန်းကျကြီး**မင်းသားသည် သက္ကရာဇ် - ၆၃၅ ခုနှစ်တွင် လောင်းကြက်နန်းတော်၏ ဘုရင်ဖြစ်လာသည်။ ဘုရင်ကြီးသည် အခွန်အတုပ်များကို ကြီးလေးစွာကောက်ယူပြီး လူတို့ကိုးကွယ်ရာ ဘာသာတရားကို မထီမဲ့မြင်ပြုလျက် ဖျက်ဆီးမှုများ ပြုစေသည်။ မနာလိုသူများသည်ကို သိသော ဘုရင်မှာ တိုင်းသူပြည်သားများ တော်လှန်မှု မရှိရလေအောင် လက်နက်ဟူသမျှကို မသုံးစွဲစေရန် ပိတ်ပင်သည်။ ငါးသင်စရာ ထင်းရှာစရာ ဓားများမှစ၍ ဗုဒ္ဓဘာသာ ဘုန်းတော်ကြီးများ အသုံးပြုသော ခေါင်းရိတ်ဓား များပါမကျန် နန်းတော်၌ အပ်နှံထားရသည်ဟု ဆိုသည်။

ထိုဘုရင်ကို ထူးခြားသော ဂန္ဓာရီပညာသျှင်နှစ်ဦးဖြစ်သည့် **ရှင်ငယ်စိတ္တရ** နှင့် **နာရဒ** တို့က မှူးမတ်တို့နှင့် တိုင်ပင်ညီညွတ်ကာ လုပ်ကြံသတ်ဖြတ်ပြီး ထိုဘုရင်ကြီး၏ သားဖြစ်သော **မင်းဘီလူး**အား ဘိသိက်သွန်းကာ ဘုရင်အဖြစ်

[1] လောမာ (ပါဠိ) = အမွေး

တင်မြှောက်ကြလေသည် ။ (အဖထက် ဆိုးသွန်းသောကြောင့် မင်းဘီလူးဟု အမည်တွင်ခဲ့ခြင်း ဖြစ်တန်ရာသည်)

## မင်းထီး (သို့) သက်တော်ရှည်ဘုရင်ကြီး

မင်းဘီလူးဘုရင်၏ ဆိုးသွမ်းမှုကို မခံမရပ်နိုင်သော မှူးမတ်နှင့် ပြည်သူတို့သည် နောက်ထပ်တခါ တိုင်ပင်ညီညွတ်မှုကို ပြုလျက် ဘုရင်ကိုလုပ်ကြံကာ မှူးမတ်မျိုးနွယ်မှ **စည်သဘင်အမတ်ကြီး**က ဘုရင်လုပ်၍ တိုင်းပြည်ကို အုပ်ချုပ်သည်။ မျှားမကြာမီ သတ်ဖြတ်ခံရပြီး မင်းဘီလူး၏ ခုနစ်နှစ် အရွယ်သာ ရှိသေးသော **မင်းထီး**ကို လောင်းကြက်၏ ဘုရင်အဖြစ် အသိအမှတ်ပြုကာ နန်းတင်ကြသည်။

မင်းထီးဘုရင်သည် ကတိသစ္စာ တည်တံ့သော ဘုရင်ကောင်းတပါး ဖြစ်ပြီးတိုင်းသူပြည်သားတို့၏ ချစ်ခင်ကြင်နာမှုကို ခံရသည်။ ဤ ဘုရင်လက်ထက်တွင် သက်ပြည် ၊ သျှမ်းပြည်၊ မြန်မာပြည်နှင့် တလိုင်းပြည်တို့၏ ရန်စကျူးကျော်မှုကိုခံရသောကြောင့် စစ်ရေးစစ်ရာ အရှိန်အဟုန်သည်လည်း မြင့်မားကာ အောင်နိုင်ခဲ့သော စစ်ဘုရင်တပါးလည်း ဖြစ်ခဲ့သည်။ နန်းစံ - ၁၀၆ နှစ် ၊ သက်တော် ၁၁၃ - နှစ်တွင် နတ်ရွာစံလွန်ခဲ့သော ကမ္ဘာပေါ်တွင် နန်းသက်အရှည်ဆုံး ဘုရင်ကြီးတပါး ဖြစ်သည်။ **လောကသာရဆုံးမစာ** ကို ပြုစုခဲ့သော **ဆရာတော်အရှင်အဂ္ဂသာရ** (**ရခိုင်သူမြတ်**) မှာ ဤဘုရင်ကြီးလက်ထတ်တွင် ပေါ်ထွန်းခဲ့သည် ။ ဘုရင်ကြီး ငယ်စဉ်ကပင် ထုတ်ပြန်ခဲ့သော အာဏာ ငါးရပ်မှာ ထင်ရှားသည် ။ ၎င်းတို့မှာ -

(၁) သားမကောင်းလျှင် အဖကို စီရင်ရမည်။

(၂) မယားမကောင်းလျှင် လင်ကို စီရင်ရမည်။

(၃) တပည့်မကောင်းလျှင် ဆရာကို စီရင်ရမည်။

(၄) ကျွန်မကောင်းလျှင် အရှင်ကို စီရင်ရမည်။

(၅) သမီးမကောင်းလျှင် အမိကို စီရင်ရမည်။

## ငနှလုံးမင်း၏ ဒုတိယလောင်းကြက်မြို့တည် အလောမာဖြူမင်းမှ သိဂ်သူမင်းအထိ မင်းဆက် (၁၆ )ဆက်၊ နန်းစံနှစ်ပေါင်း -၁၅၄ နှစ် သည် လောင်းကြက်ခေတ်

## "မြောက်ဦးခေတ်"(အေဒီ ၁၄၃၀ - ၁၇၈၅)

မြောက်ဦးခေတ်၏ တိုးတက်မှု ၊ ဆုတ်ယုတ်မှုကို အကြောင်းပြု၍ ပထမ မြောက်ဦး ၊ ဒုတိယမြောက်ဦး ၊ တတိယမြောက်ဦးစသည်ဖြင့် အပိုင်း အသုံးပိုင်း ဖြင့် တင်ပြထားပါသည် ။

ပထမမြောက်ဦးဖြင့် စတင်ခဲ့သည့် ဘုရင့်အနွယ်ကို ပြသည်။ ဒုတိယ မြောက်ဦးဖြင့်ရခိုင့်ရွှေခေတ်ဟုခေါ်လောက်အောင် တိုးတက်ဖြစ်ထွန်းခဲ့သော မြောက်ဦး၏ အခြေအနေကို ပြသည်။ တတိယမြောက်ဦးဖြင့် မြောက်ဦး၏ ဆုတ်ယုတ်မှုစတင်ပုံနှင့် တိုင်းပြည်ဆုံးရှုံးမှုကို ပြသည်။

## ပထမမြောက်ဦးခေတ် (အေဒီ ၁၄၃၀ - ၁၅၃၁)

လောင်းကြက်၏ဘုရင် သိင်္ခသူ ကွယ်လွန်သောအခါ ထိုမင်း၏ အစ်ကိုဖြစ်သော ရာဇသူ၏ သားကြီး **နရမိတ်လှ**(**စောမွန်**) သည် ကောဇာ - ၇၆၆ ခုနှစ်တွင် ဘုရင်ဖြစ်လာခဲ့သည်။ မိဖုရား၏အမည်မှာ စောစစ်ဖြစ်သည်။

ဤမင်းလက်ထက်တွင် အရှေ့ပြည် **အင်းဝ**၏ ကျူးကျော်တိုက်ခိုက်မှုကြောင့် အနောက်သူရတန်ပြည်သို့ ထွက်ပြေးခိုလှုံခဲ့ရသည်။ ဘုရင်မရှိသော လောင်းကြက် တစ်မြို့တည်းကို အရှေ့ဘုရင် **အင်းဝမင်းခေါင်** ကလွှမ်းမိုးသိမ်းယူကာ သူ၏ စစ်သည်ရဲမက်ကိုအုပ်ချုပ်စေသည်။

မင်းစောမွန်၏ ညီဝမ်းကွဲဖြစ်သော သံတွဲစား **မင်းခရီ**(**အလီခင်**)သည် ဟံသာဝတီ (မွန်)ဘုရင် **ရာဇဓိရာဇ်**၏ အကူအညီကို ရယူကာ လောင်းကြက်မြို့ကို ပြန်လည် တိုက်ခိုက်သိမ်းယူခဲ့သည်။ ဤသို့ဖြင့် လောင်းကြက်မြို့သည် မြန်မာ တလှည့် မွန်တလှည့်ဖြင့် အုပ်ချုပ်မှုကို ဆယ်စုနှစ်နှစ်ခုကျော်ခန့် ခံလိုက်ရပြီးနောက် မင်းစောမွန်ကပင် လောင်းကြက်၏ ထီးနန်းကို ပြန်လည် ရယူခဲ့သည်။

## မြောက်ဦးမြို့

ပျက်လေပြီးသော လောင်းကြက်မြို့ကို စွန့်ခွါကာ ကောဇာ - ၇၉၂ ခု ၊ တော်သလင်းလဆန်း ၁ - ရက် ၊ တနင်္ဂနွေနေ့ (အေဒီ ၁၄၃၀) တွင် မြောက်ဦးမြို့ကို တည်ထောင်သည် ။ ဘုရင်**မင်းစောမွန်**သည် မြောက်ဦး၏ လုံခြုံရေးကို အထူးလေးထား ဆောင်ရွက်ခဲ့ပြီး ရမ်းပြည့်၊ မအီ ၊ လမူး ၊ တန်းလွဲ ၊ သံတွဲနှင့်

မာန်အောင်ကျွန်းတို့ကို ပြန်လည်ထူထောင်ပေးကာ အုပ်ချုပ်မှုသြဇာကို ပြန့်နှံ့စေခဲ့သည်။

မင်းစောမွန်ကွယ်လွန်ပြီးနောက် မြောက်ဦးကို အုပ်ချုပ်ခဲ့ကြသော တချို့သော ရခိုင်ဘုရင်များမှာ ကုလားဘွဲ့ကို ခံယူခဲ့ကြသည်များ ရှိခဲ့သည်။

## "မြောက်ဦးမြို့တည် မင်းစောမွန်မှ မင်းခေါင်ရာဇာအထိ မင်းဆက် (၁၂)ဆက်၊ နန်းသက် ၁၂၇ - နှစ်သည် ပထမမြောက်ဦးခေတ်"

## ဒုတိယမြောက်ဦးခေတ် (အေဒီ ၁၅၃၁ - ၁၆၃၈)

## မင်းပါကြီး(ခ)သီရိသူရိယစန္ဒမဟာဓမ္မရာဇာ

မင်းခေါင်ရာဇာကွယ်လွန်သောအခါ ဘုရင်ဟောင်း မင်းရာဇာ၏ သားတော်ဖြစ်သော သံတွဲစား **မင်းပါကြီး**သည် သက္ကရာဇ် - ၈၉၃ ခုနှစ်တွင် မြောက်ဦးမြို့၏ ဘုရင်တပါးဖြစ်လာခဲ့သည် ။ အနောက်ပြည်မှ မင်းခန့်လွှာ တံဆိပ်ဆက်ကပ်သည်ကို လက်မခံဘဲ **ဘင်္ဂါ (၁၂)** မြို့ကို ဂန္ဓာရီပညာသျှင် **သျှင်မြဝါ**၊ အမတ်ပညာရှိ **မဟာပညာကျော်**တို့နှင့်တိုက်ခိုက် သိမ်းယူခဲ့သည်။

အရှေ့ပြည် **တောင်ငူ**ပြည်ရှင် စစ်ဘုရင် **တပင်ရွှေထီး**နှင့်ဖြစ်သော ကြီးကျယ်သော နယ်မြေကျူးကျော်မှုကို တုံ့ပြန်ချေမှုန်းနိုင်ခဲ့သည်။ ဤမင်း လက်ထက်တွင် ရခိုင့်ရေတပ်အင်အားမှာ တောင့်တင်းသာလွန်ပြီး ပေါ်တူဂီ လူမျိုး ကြေးစားစစ်သည်တို့ကို ငှားရမ်းအသုံးပြုခဲ့သည်။

သျှင်မြဝါ၏အကူအညီဖြင့် အုပ်ချုပ်ရေးစနစ်သစ် (**ရွှေမျိုင်းဓမ္မသတ်**) ကို ရေးဆွဲကျင့်သုံးကာ ဘဏ္ဍာတော်ကို စနစ်တကျ ကောက်ယူစီမံစေပြီး ပင်လယ်ရပ်ခြား ကုန်သွယ်မှုကို အားပေးခဲ့ကာ၊ လယ်ယာလုပ်သူများ၏ အကျိုးစီးပွါးကိုလည်း မြှင့်တင်ပေးခဲ့သည် ။

အေဒီ - ၁၅၃၅ ခုနှစ်တွင် ရန်စလာသော ပေါ်တူဂီတို့ကို အောင်မြင်ခြင်း အထိမ်းအမှတ် အဖြစ် **သျှစ်သောင်း** ပုထိုးတော်ကို တည်ဆောက် ခဲ့သည်။ ဤသို့ဖြင့် မင်းပါဘုရင်ကြီးသည် ရခိုင် သမိုင်းတွင် ထူးခြားပြောင်မြောက်သော ဘုရင် တစ်ပါးပင် ဖြစ်လာပေသည်။ နန်းစံခဲ့သော (၂၂) နှစ်ကာလကို မြောက်ဦးခေတ် ၏ ရွှေခေတ်ဟု ပင် ပြောစမှတ်ပြုကြပြီး တိုင်းပြည် တည်ငြိမ် တိုးတက်ရေးအတွက် ဘုရင်ကြီးချမှတ်ခဲ့သော အောက်ပါ အာဏာခုနစ်ရပ်မှာ လွန်စွာ ထိရောက်ခဲ့သည် ။

၁။ သားမကောင်းလျှင် အဖကို စီရင်ရမည်။

၂။ သမီးမကောင်းလျှင် အမိကို စီရင်ရမည်။

၃။ မယားမကောင်းလျှင် လင်ကို စီရင်ရမည်။

၄။ ကျွန်မကောင်းလျှင် အရှင်ကို စီရင်ရမည် ။

၅။ ရွာမကောင်းလျှင် ရပ်ကွက်ကို စီရင်ရမည်။

၆။ ပြည်မကောင်းလျှင် အမတ်ကို စီရင်ရမည်။

၇။ မင်းမကောင်းလျှင် တိုင်းပြည်မှ ကျွတ်လွတ်စေရမည် ။

**မင်းဖလောင်း**

မင်းပါကြီး၏ သားထွေးဖြစ်သော **မင်းဖလောင်း** ခေါ် စစ်တံတင်မြို့စားဖွားတော်ထွေး**ချစ်နှောင်း**သည် သက္ကရာဇ် ၉၉၃ ခုနှစ်တွင် ဘိသက်သွန်း၍

ဘုရင် ဖြစ်လာသည် ။ ဘုရင်သည် အရှေ့ပြည်မှ ရန်ကို တွန်းလှန်နိုင်ခဲ့ပြီး၊ အနောက်ပြည်တရိုးဖြစ်သော စစ်တကောင်း နှင့် သက်ပြည် ၊ ဘင်္ဂါ (၁၂) မြို့ တို့ကို အာဏာသက်ရောက်လွှမ်းမိုးနိုင်စေခဲ့သည်။ တပြည်သားဖြစ်သော ပေါ်တူဂီ ၊ မဂို ၊ သိန်းဃိုပြည်များနှင့် ဆက်ဆံရေး ပြေလည်ခဲ့သည် ။ ပြည်ပ အန္တရာယ် ရန်စွယ်များကို ကင်းရှင်းစေပြီးနောက် ဗုဒ္ဓသာသနာတော်ကို ချီးမြှောက် ခဲ့သည်။ အေဒီ - ၁၅၉၁ တွင် ရှေးရခိုင်သမိုင်းတွင် အကြီးဆုံးဖြစ်သော **ဝရိုက်တော်(ဦးရာဇ်တော်**)ခေတ်စေတီ ကို ပြည်လည်တည်ဆောက် ပူဇော်ခဲ့သည်။

## သျှစ်သောင်း ၊ ကိုးသောင်း ၊ ထုက္ကန်သိမ်

မင်းပါကြီးဘုရင် တည်ဆောက်ခဲ့သော ရုပ်စုံပြတိုက်သဖွယ် သျှစ်သောင်း ပုထိုးတော်ကြီးတည်ဆောက်ပြီးနောက် သားတော် **မင်းတိက္ခာ**လက်ထက်တွင် ကိုးသောင်းပုထိုးတော်ကြီးကို တည်ဆောက် ကိုးကွယ်ခဲ့သည် ။ ထို့ကြောင့် **အဖသျှစ်သောင်း ၊ သားကိုးသောင်း** ဟု ရခိုင်တွင် ဆိုစမှတ်ပြုကြသည်။

သျှစ်သောင်းပုထိုးတော် နှင့် ကိုးသောင်းပုထိုးတော်ကြီးတို့သည် နာမည် နှင့်လိုက်ဖက်အောင်ပင် ဗုဒ္ဓဆင်းတုတော်အရေအတွက်မှာ များပြားလှသည်။ သျှစ်သောင်းပုထိုးတော်ကြီးထဲတွင် ဗုဒ္ဓဆင်းတုတော်များအပြင် ဇာတကလာ ရုပ်လုံးရုပ်ကြွများ ၊ နတ်ဒေဝတာပုံများ ၊ မြောက်ဦး၏အမှတ်တံဆိပ်ဖြစ်သော **ဗျာလ်**ရုပ်များ ၊ မင်းညီမင်းသားများနှင့် ရခိုင့်ကိုယ်ပိုင်ဟန် ယဉ်ကျေးမှုအနုပညာ စသည်များကို တွေ့နိုင်သောကြောင့် ကိုးသောင်းပုထိုးတော်ထက် ပို၍ စိတ်ဝင် စားဖွယ် ကောင်းလေသည်။

ယခုလက်ရှိ သျှစ်သောင်းပုထိုး၏ ရှေ့တည့်တည့်တွင်ရှိသော ထုက္ကန်သိမ်ပုထိုးတော်ကို မင်းပါဘုရင်းကြီး၏ ငါးဆက်မြောက်အနွယ်ဖြစ်သော မင်းရာဇာကြီး (သတိုးဓမ္မရာဇာ)၏ သားတော် ဘုရင် **မင်းခမောင်း**က ယာယီယတြာအနေဖြင့် တည်ဆောက်ခဲ့ပြီး ၊ အဆိုပါ သိမ်ထဲ ရှိ စကြံန်လမ်း တလျှောက်တွင် ရခိုင့်ဟန်ပန် ဝတ်စားဆင်ယင်ထုံးဖွဲ့မှုနှင့် နတ် ဘီလူး ဝိဇ္ဇာဓိုရ် ကျောက်ဆစ် ရုပ်ကြွများကို တွေ့နိုင်သည်။ သိမ်ကို မာကျောခိုင်ခံ့သော ကျောက်တုံးကြီးများဖြင့် တည် ဆောက် ထားပြီး ကြီးမားသော လှေကားများက တက်ရောက်သူများအဖို့ လေးနက်သော အာရုံကို ဖြစ်စေသည်။

## ရွှေခေတ်မြောက်ဦး

မင်းဖလောင်းဘုရင် နတ်ရွာစံပြီးနောက် သားတော် **မင်းရာဇာကြီး** ခေါ် **သတိုးဓမ္မရာဇာ** သည် အေဒီ ၁၅၉၃ တွင်ဘုရင်ဖြစ်လာသည် ။ ဤဘုရင်လက်ထက်တွင် ရခိုင်နယ်နိမိတ်အင်ပါယာကို များစွာချဲ့ထွင်ခဲ့ပြီး အရှေ့ပြည်ထိ စစ်ရေးစစ်ရာများ၌ ဝင်ရောက် စွက်ဖက်ဖူးလေသည်။

ပင်လယ်ရပ်ခြား စီးပွါးရေးဖြစ်သော ပေါ်တူဂီတို့ ဒတ်ချတ်တို့နှင့် ကုန်စည် ကူးသန်းမှုပြုလုပ်သည်သာမက ၊ ယိုးဒယား ၊ **စမွါ**(**ဗီယက်နာမ်**) နှင့် ကမ္ဘောဒီးယားတို့ပါမကျန် လာရောက် ကူးသန်းရောင်းဝယ်မှုကို ပြုကြသည်။ ရွှေဒင်္ဂါး ၊ ငွေဒင်္ဂါးများထုတ်လုပ်သုံးစွဲကာ ကုန်ဈေးနှုန်းကို စံနစ်ကျစေခဲ့သည်။ ဘာသာရေးရောရာတို့၌ အလေးထားဆောင်ရွက်ပြီး ရခိုင့် ယဉ်ကျေးမှုကိုလည်း အထွတ်အထိတ်သို့ ရောက်စေခဲ့သည်။ ရဲဝံ့စွန့်စားပြီး နှလုံး ရည်နှင့်ပါ

ပြည့်စုံသော စစ်သည်တော်များ ရဲမက်များ ၊ **ဥက္ကာပျံ(ဝကာပျံ)**ကဲ့သို့သော ပညာရှိများနှင့်စာဆို တော်များလည်း အမြောက်အများ ပေါ်ထွက်ခဲ့သည် ။

ဤဘုရင်လက်ထက်တွင် အနောက်ဘင်္ဂါ (၁၂) မြို့ကို အုပ်ချုပ်ရန် အတွက် သားအကြီးဖြစ်သော **မင်းမာန်ကြီး**ဘုရင် (**ဒွန်းမာတင်**၏အဖ)ကို သီးသန့်ဘုရင်ခံတပါးအဖြစ် အုပ်ချုပ်စေကာ အာဏာခွဲဝေမှုစနစ်ကို ကျင့်သုံး ခဲ့သည်။ ဘုရင်ကြီးထုတ်ပြန်ခဲ့သော **မင်းရာဇာကြီးစာတမ်း**မှာ ထင်ရှားသည်။

မင်းရာဇာကြီး၏ သားငယ် **မင်းခမောင်း** ဘုရင်ဖြစ်လာသောအခါ နဂိုက ရှိနှင့်ပြီးသော ရခိုင့်ရေတပ်မတော်ကို ပို၍ကြီးမားအဆင့်မြင့်အောင် စီမံလေ သည် ။ တပ်မတော်တွင် ပေါ်တူဂီ ၊ ယိုးဒယား၊ **ဂျပန်** ၊ အင်းဝ ၊ ဟံသာဝတီ ၊ ဘင်္ဂလား နှင့် **မဂို**စစ်သည်တော်များကို ငှားရမ်းအသုံးပြုခဲ့သည်။ ပြည်တွင်းရေး တည်ငြိမ်သလောက် ရေပြင်၌ကျက်စားသော ပေါ်တူစစ်တပ်နှင့် ဆင်မပြေမှု များစွာရှိသောကြောင့် တိုက်ခိုက်အောင်မြင်သော်ငြားလည်း အနောက်ဘင်္ဂါ၏ တော်လှန်ပုန်ကန်မှုတို့ကို ခံခဲ့ရသည်။ (အစ်ကိုတော်ဖြစ်သော အနောက် ဘုရင်ခံ မင်းမာန်ကြီး နှင့် သဘောထားမတိုက်ဆိုင်သောကြောင့်လည်း ဖြစ်နိုင် ဖွယ်ရှိလေသည်) ဗုဒ္ဓသာသနာတော်မှာ ထွန်းလင်းပြောင်ဝင်းခဲ့ပြီး **သိန်းဃို** ပြည်သို့ သာသနာပြုစေလွှတ်ခဲ့သည်များရှိသည်။

မင်းခမောင်ဘုရင်၏ သားတော် **မင်းဟာရီ** (**သီရိသုဓမ္မရာဇာ**)၏ခေတ် တွက်လည်း ရခိုင်ပြည်မြောက်ဦးသည် စစ်အင်အားတောင့်တင်းခိုင်မာလျက် နယ်မြေခိုင်မာရေးအတွက် လုံ့လထုတ်သည့်အနေဖြင့် မတည်ငြိမ်သော ဘင်္ဂါ နယ်များကို ချီတက်သိမ်းပိုက်ခဲ့သည်။ မြန်မာပြည် အင်းဝနှင့်လည်း သံခင်း တမန်ခင်းအဆင်ပြေချောမွေ့သော်လည်း ပြည်ပဆက်ဆံရေးတွင် မဂိုနှင့်

အင်အားပြိုင်နေခဲ့ရသည်။ ဘင်္ဂလားနယ်သည် ထိုခေတ်ခါက စီးပွါးရေးဖြစ် သော ကျွန်ရောင်းဝယ်မှုအတွက် များစွာ အထောက်အကူ ဖြစ်စေခဲ့သည်။ ပေါ်တူဂီ(ခရစ်ယန်)ဘုန်းတော်ကြီး **မန်နရိတ်**သည် ဤမင်းလက်ထက်တွင် ရောက်လာခဲ့ပြီး နန်း၏ကြီးကျယ်ပုံနှင့်ဘုရင့်ဘိသိက်အကြောင်းကို မှတ်တမ်း တင်ခဲ့သည်။

နောက်ပိုင်း ဘုရင့်မိဖုရားဖြစ်သူ နှင့်လောင်းကြက်စား အမတ် **ငကုသလ** တို့ လုပ်ကြံမှုကြောင့် နတ်ရွာစံခဲ့ရသည်။ ခုနစ်နှစ်အရွယ်သာရှိသေးသော သားတော် **မင်းစနေ**ကို ဘုရင်အဖြစ်တင်မြှောက်ကြသော်လည်း ရက်ပေါင်း (၂၀)တွင် ကျောက်ပေါက်လျက် သေဆုံးသွားသည် ။ ဤသို့ဖြင့် မင်းပါ ဘုရင်ကြီး၏ အနွယ်တော်လည်း လုံးဝ အဆက်ပြတ်လားလေတော့သည်။

## မင်းရာဇာဘုရင်၏ သားတော် မင်းပါဘုရင်မှ မင်းဟရီ၏သားတော် မင်းစနေဘုရင်ထိ မင်းဆက်(၉)ဆက်၊ နန်းသက် - ၁၀၇ နှစ်သည် ဒုတိယမြောက်ဦးခေတ်

## တတိယမြောက်ဦး (အေဒီ ၁၆၃၈ - ၁၇၈၅ )

**ငစွယ်ပြဇာတ်**ကိုခင်းပြကာ နန်းရအောင်ကြံဆောင်သဖြင့် ဘုရင်ဖြစ်လာ သူ **လောင်းကြက်စား** အမတ်ငကုသလသည် **နရပတိကြီး** အမည်ဖြင့် မြောက်ဦး ထီးနန်းကို အုပ်ချုပ်သည် ။ ဘုရင်သည် လုပ်ကြံခံရမှုကို လွန်စွာစိုးရိမ်သော ကြောင့် နန်းတွင်းရှိ အမတ်ပညာရှိအပေါင်းနှင့် အစွမ်းအစရှိသော လူအပေါင်း ကို အစဖျောက်ပစ်မှုတို့ကြောင့် ရက်စက်သော မင်းတပါးအဖြစ် မှတ်တမ်းတင်

ခံရသည်။ မင်းဆွေ မင်းမျိုးတို့လည်း လွန်စွာကြောက်လန့်ရသော ဘုရင်ဖြစ်သော်ငြားလည်း အရှေ့ပြည်(ဗမာပြည်)နှင့်မူ သံခင်းတမန်ခင်း မပျက်ခဲ့ပေ။

ဘုရင်သည် သက်ဦးဆံပိုင်ဘုရင်စံနစ်ကို လိုလားသူဖြစ်သောကြောင့် ပညာရှိသုခမိန်များအဖွဲ့ဖြင့်တိုင်းပြည်ကို ထိန်းကွပ်သည့်ကဏ္ဍကို ဖျက်သိမ်းခဲ့သည်။မြောက်ဦး၏ဆုတ်ယုတ်မှုသည် နရပတိကြီးနန်းရသည်မှစတင်ခဲ့သည်။

နရပတိကြီး၏ ဒုတိယအနွယ်တော်ဖြစ်သော **စန္ဒသုဓမ္မရာဇာ**၏ လက်ထက်သို့ရောက်သောအခါ စစ်ခိုလာသော မဂိုမင်းသား **သျှာသျှူဂျာ**၏ နန်းလုမှုနှင့်ကြုံခဲ့ရသည်။ မဂိုမင်းသား၏အရေးအခင်းကြောင့် နဂိုကပင် အဆင်မပြေခဲ့သော မဂိုအင်ပါယာနှင့် အခြေအနေ ပို၍ဆိုးရွားလာခဲ့သည် ။နောက်ပိုင်းတွင် ဘင်္ဂလားနယ်၌ အင်အားကြီးမားသော မဂိုအင်ပါယာကပင် ရခိုင်ပိုင်ဆိုင်ခဲ့သော ဘင်္ဂါ (၁၂) မြို့ကို လက်လွှတ်စေခဲ့သည်။

နောက်ပိုင်း မြောက်ဦးထီးနန်းအုပ်ချုပ်မှုသည် **ကိုယ်တော်ရံ** တပ်များ၏ အလိုကျဖြစ်ခဲ့ရသည်။ ဘုရင့်နန်းတွင်းအတွက် ဖွဲ့စည်းထား သော ကိုယ်တော်ရံ တပ်သားများသည် မလိုချင်သောဘုရင်ကိုချပြီး လိုချင်သော ဘုရင်ကို တင်မြှောက်ကြခြင်းဖြင့် ဘုရင်၏သြဇာကို ကျဆင်းစေခဲ့သည်။ ထို့အတူ တိုင်းပြည်၏ မငြိမ်သက်မှုသည် စီးပွါးရေးနှင့် ရခိုင့်လုံခြုံရေး အတွက်စိုးရိမ်စရာဖြစ်လာခဲ့ပြီး တိုင်းပြည်ညီညွတ်ရေးသည်လည်း အစိတ်စိတ်အမွှာမွှာ ပြိုကွဲစပြုလာခဲ့သည်။ အကာအကွယ်မဲ့သော ပြည်သူများစွာလည်း အရိုင်းအစိုင်းတို့ ၏ ကျွန်အဖြစ် ဖမ်းဆီးရောင်းစားမှုကို ခံခဲ့ရသည်။

အေဒီ - ၁၇၁၀ ပြည့်နှစ်တွင် ဘုရင်ဖြစ်လာသော **တန္တဗိုလ်**သည် **စန္ဒသူရိယရာဇာ**ဘွဲ့ကိုခံယူကာ မြောက်ဦးခေတ်၏ သြဇာအရှိန်အဝါကို ပြန်

လည်ကာ အရောင် တောက်ပစေခဲ့သည်။ များပြားလှသော ကိုယ်တော်ရံတပ် အင်အားကိုလျှော့ချပြီး ဘုရင့်ဩဇာသက်ရောက်မှုကို မြှင့်တင်ခဲ့သည် ။ ပုန်ကန်မှုများငြိမ်သက်ကာ ရခိုင့်အင်အားသည်လည်း ပြန်လည် ဦးမော့စပြုလာခဲ့သည်။ နန်းစံ (၂၁) နှစ်ထိ စိုးစံခဲ့သော ဤမင်းသည် နောက်ပိုင်းတွင် နန်းတွင်း၏ ညီညွတ်မှုကို ဆောင်ရွက်နိုင်စွမ်းကျဆင်းခဲ့ပြီး ပုန်ကန်ဆူပူမှုတို့ တကျော့ပြန်စတင်ကာ ရခိုင့်ပြည် လည်ဦးမော့မှုလည်း ငုပ်လျှိုးပျောက်ကွယ်ဖို့ရန်အတွက် ဧကန်သဗ္ဗေ တည်လာတော့သည်။

## မဟာသမ္မတမင်း (သို့မဟုတ်) ရခိုင်ပြည်၏ နောက်ဆုံးဘုရင်

တတိယမြောက်ဦးခေတ်၏ (၂၈) ပါးမြောက်ဘုရင်တပါးလည်းဖြစ် ၊ ရခိုင့်ဘုရင်စနစ်၏ နောက်ဆုံးလည်းဖြစ်သည့် လက်ဝဲမြန် **သတိုးအောင်**(**အောင်စုံ**) ဘုရင်ဖြစ်လာခဲ့သည်။ တိုင်းသူပြည်သားတို့၏ လိုလားချက်အရ ဘုရင်ဖြစ်လာသူဖြစ်သောကြောင့် **မဟာသမ္မတမင်း** ဟူသော ဘွဲ့အမည်ကိုခံယူသည်။

ဤမင်းလက်ထက်တွင် ရခိုင်ပြည်၌ -

(က)ကြေည်းတောင်ရပ်တွင် **ဒါးမနိုင်**တမင်း၊

(ခ) ရိုးကျွန်းတွင် ကု**လားရွှေစာ**လည်းတမင်း ၊

(ဂ) ပိန္နဲချောင်းကျွန်းတွင် **ကောင်းညွန့်ရန်တိုင်**လည်းတမင်း ၊

(ဃ) ကြပ်စင်ကျွန်းတွင် **ငသံတွေ**လည်း တမင်း ၊

(င)တန်းလွဲတွင် **ကျော်ထွေး**လည်း တမင်း ။

(စ) မာန်အောင်ကျွန်းတွင် **သတိုးဖြူ**လည်း တမင်း။ ဤသို့ သူတလူ ငါတမင်း ဖြစ်နေသောတိုင်းပြည်ကို ပြည်လည် တစုတရုံးတည်ဖြစ်အောင် ကြိုးပမ်းနေ

ဆဲအချိန်တွင် တချို့သော တိုင်းချစ်ပြည်ချစ်ပုဂ္ဂိုလ်တို့သည် အရှေ့ပြည် **အမရပူရ**၏ ဘုရင် ဖြစ်သော **ဗဒုံမင်း**(**ဘိုးတော်မောင်ဝိုင်း**) ထံတွင် ခိုလှုံလျက် ရခိုင်ပြည်ကို တိုက်ခိုက်သိမ်းယူးပေးပြီး မင်းကောင်းတပါး တင်မြှောက်ပေးရန် လားရောက် တောင်းဆိုကြလေသည် ။ ထိုအထဲတွင် **ငထွန်းစံ**နှင့် **ငသံတွေ** တို့ ပါဝင်ကြသည်။

ဗဒုံမင်းသည် ရခိုင်ကို တိုက်ခိုက်သိမ်းပိုက်ရန်သင့်မသင့်ကို သူလျှိုလွှတ်၍ လေ့လာသုံးသပ်ပြီး သားတော် အိမ်ရှေ့စံကို ရေကြောင်းကုန်းကြောင်း ဖြင့် ဗိုလ်ပါစစ်သည်အလုံးအရင်းနှင့်တကွ ချီတက်တိုက်ခိုက်စေသည်။

ရခိုင့်စစ်သည်တော်တို့မှာ အချင်းချင်းမညီညွတ်မှုကြောင့် နယ်ချဲ့စစ်ကို ပြန်လည် ခုခံတွန်းလှန်ကြသော်လည်း အောင်မြင်မှု မရခဲ့ပေ။ တချို့သော ပြည်သူများက ဗဒုံမင်း၏ စစ်ချီလာခြင်းကို အကောင်းဘက်မှရှုမြင်ကာ မိမိတို့ ရခိုင်ပြည် အတွက် မင်းကောင်းမင်းမြတ် တင်မြှောက်ပေးရန်အတွက် လာကြခြင်းပင်ဟူသော အထင်များဖြင့် တစုံတရာသော ကြောင့်ကြမှုကိုမဖြစ်စေဘဲ အသိတရားနောက်ကျခဲ့သည်။ ဤသို့ဖြင့် **အေဒီ - ၁၇၈၄ ခု (ကောဇာ - ၁၁၄၆ ခု ၊ ပြာသိုလပြည့်ကျော် ၇ ရက်နေ့**) တွင် မြောက်ဦးထီးနန်း သည် တပါးသူတို့၏ လက်အောက်သို့ ကျရောက် လားလေသည်။ မြန်မာတို့သည် မြောက်ဦးနန်းတော်ကို မီးရှို့ ဖျက်ဆီးလိုက်ကြပြီး ၊ တခြား နိုင်ငံတနိုင်ငံ၏ အမှတ်လက္ခဏာများ ဖြစ်သည့် အရာဟူသမျှကိုလည်း တချို့ကိုယူငင်၍တမျိုး ၊ တချို့ကို ဖျက်ဆီး၍တဖုံ အစဖျောက်ပစ်ကြလေသည်။

ပြာသို့လကွယ်နေ့တွင် မဟာသမ္မတမင်းနှင့်မိဖုရားတို့ လက်ရဖမ်းဆီးမှုကိုခံရပြီး ၊ အတတ်ပညာရှင်များ ၊ အသိပညာရှင်များနှင့် ဘုန်းတော်ကြီးများ

သာမက တန်ခိုးကြီး **မဟာမြတ်မုနိဘုရား**ပါ မကျန် များစွာသောရခိုင့် အမွေအနှစ်များမှာ အမရပူရ နယ်ပြည်တော်သို့ သုံ့ပန်းအဖြစ် ခေါ်ဆောင်ခြင်း ကို ခံလိုက်ရခြင်းဖြင့် ရခိုင့်အချုပ်အချာအာဏာလည်း တခန်းရပ် နိဂုံးချုပ်ခဲ့ကာ သူ့ကျွန် ဘဝသို့ ရောက်ကြရလေတော့သည်။

ထို့ကြောင့် ရခိုင်တွင် **သံတွေဖောက်ပြန် ရခိုင်ကျွန်** ဟုလည်းကောင်း ၊ **ဥဩရီသောက်**(၁၁၄၆) **ထီးနန်းပျောက်** ဟုလည်းကောင်း ဝမ်းနည်း နာကျည်း ချက်ကြီးစွာဖြင့် မှတ်သား ပြောဆိုလေ့ရှိကြသည်။

## နရပတိကြီး(ကေုသလ)ဘုရင်လက်ထက်မှ မဟာသမ္မတမင်းထိ
## မင်းဆက်ပေါင်း(၂၈) ဆက်။ နန်းစံ - ၁၄၆ နှစ်သည်
## တတိယမြောက်ဦးခေတ်

## လေးမြို့ဝန်ခေတ် (အေဒီ ၁၇၈၅ - ၁၈၂၅)

ရခိုင်ကို တိုက်ခိုက်အောင်နိုင်ခဲ့သော ဗဒုံမင်းသည် ဓညဝတီ၊ ဒွါရာဝတီ၊ မေဃဝတီ ၊ ရမ္မာဝတီဟူသော ဝတီကြီးလေးရပ်အုပ်ချုပ်မှုစနစ်ဖြင့် ရခိုင်ကို အုပ်ချုပ်သည်။ လက်အောက်ခံ ရခိုင်မြို့ဝန်များထားလျက် အုပ်ချုပ်ခဲ့သော ကာလဖြစ်သောကြောင့် လေးမြို့ဝန်ခေတ်ဟု သမိုင်းဆရာများက မှတ်တမ်း ပြု ကြသည် ။

မြို့ဝန်ခေတ်တွင် ရခိုင်လူမျိုးတုံးလားအောင်ထိ နှိပ်စက်သတ်ဖြတ်ခြင်း ကိုခံခဲ့ရပြီး အဆိုးရွားဆုံး အုပ်ချုပ်မှုစနစ်အောက်တွင်ရခိုင်ပြည်သည် ငတ်မွတ် ခြောက်ရွံ့မှုနှင့် ထွက်ပြေးတိမ်းရှောင်မှုတို့အပြင် တခြား မမျှော် လင့်ရဲသော

အခြေအနေတရပ်ရောက်ခဲ့ရပြီး ၊ တိုင်းပြည်သည်လည်း ဆင်းရဲမှု၏ အထွဋ်အထိပ်သို့ရောက်ကာ ဒုက္ခပင်လယ်ဝေခဲ့ရသည်။

ပြန်လည် တော်လှန်ပုန်ကန်မှုမဖြစ်အောင် တားမြစ်တော ဗဒုံမင်း၏ အုပ်ချုပ်မှုသည် လူမဆန်အောင် ပြင်းထန်သော်လည်း ဖိနှိပ်မှုရှိလျှင် တွန်းကန်မှုရှိသည်ဟူသော နိယာမတရားအရ (ငသံတွေ၏သား) ဗိုလ်**ချင်းပြန်**၏ တော်လှန်ပုန်ကန်မှုလည်း တခါ ပေါ်ပေါက်လာခဲ့သည်။

အင်္ဂလိပ်တို့၏ ကိုလိုနီနယ်မြေချဲ့ထွင်သောခေတ်နှင့်ကြုံကြိုက်သော ဗိုလ်ချင်းပြန်တို့၏ တော်လှန်ရေးခရီးသည် နှစ်ကြာလာသည်နှင့်အမျှ အင်အားဆုတ်ယုတ်ကာ စစ်တကောင်းတောင်တန်းများရှိရာသို့ ပြန်လည် ဆုတ်ခွါထွက်ပြေးရခြင်းဖြင့် တော်လှန်းရေးတရပ်၏နိဂုံးကား မလှပနိုင်ခဲ့ပေ။

ရခိုင်ပြည်ကိုအုပ်ချုပ်ခဲ့ကြသော မြို့ဝန်များနှင့် ကိုလိုနီအင်္ဂလိပ်တို့သည် ရခိုင်နယ်စပ်ပြဿနာ ကျူးကျော်ခြင်းနှင့်စပ်လျဉ်းကာ စစ်ဖြစ်ခဲ့ကြသည်။ ဤသို့ဖြင့် အင်္ဂလိပ်တို့သည် အေဒီ - **၁၈၂၅** ခုနှစ်တွင် ရခိုင်ပြည်သို့ စစ်ချီကာ ၎င်းနှစ် ဧပြီ (၂)ရက်နေ့တွင်မြောက်ဦးမြို့ကို စတင်သိမ်းပိုက်ပြီးသည့်နောက် ရမ်းဗြဲ ၊ မာန်အောင်တို့ကိုပါ ဆက်တိုက်သိမ်းယူလိုက်ကြခြင်းဖြင့် မြို့ဝန်များအုပ်ချုပ်သည့်ခေတ် အဆုံးသတ်သည်။

## လေးမြို့ဝန်များအုပ်ချုပ်သော - ၁၇၈၅ မှ အင်္ဂလိပ်တို့သိမ်းပိုက်သော - ၁၈၂၅ ထိ နှစ်ပေါင်း (၄၀)သည် မြို့ဝန်ခေတ်

# ထင်ရှားခဲ့သော ရခိုင်မင်းများ[2]

ရခိုင်သမိုင်းတွင် ပြောင်မြောက်သော ခေတ်ကြီးတို့သည် အတိတ်တွင် သာရှိခဲ့သည်။ ထိုခေတ်တို့ကို ရခိုင်တွင် စိုးစံခဲ့သော မင်းတို့နှင့် ရခိုင်ပြည်သူတို့က တည်ဆောက်ခဲ့ကြသည်။ ရှေ့ရခိုင်မင်းတို့၏ ဆောင်ရွက်ချက်တို့သည် ရှေ့ဟောင်း ရခိုင်သမိုင်းတစိတ်တပိုင်းကို မီးမောင်းထိုးပြနေကြသည်။

## မာရယုမင်း (ဘီစီ ၃၃၂၅ - ၃၂၆၃)

မာရယုမင်းသည် ကပ္ပိလဝတ်ပြည့်ရှင်ဖြစ်သည့် ကုလားတန်မြစ်ညာတွင် သီတင်းသုံးနေသော အဇ္ဈုနသျှင်ရသေ့နှင့် သက်မင်းသမီး ဣန္ဒမာယုတို့၏ သားတော်ဖြစ်သည်။ လေးနှင့် သံလျက်အတတ်ကို ကျွမ်းကျင်သည်။ ကြီးပြင်းလာသောအခါ ဝေသာလီကို ဖျက်ဆီးနေသော ရက္ခိုသ်ဘီလူးများကို နှိမ်နင်းအောင်မြင်သည်။ ဓညဝတီမြို့တော်ကို တည်ထောင်သည်။ သူ၏ နန်းဆက်မှာ ဘီစီ - ၁၅၀၇ ထိ ရှည်ကြာခဲ့သည်။

## ကမ္ဗရာဇာ (ဘီစီ ၁၅၀၇ - ၁၄၇၀)

ဘီစီ ၁၅၀၇ တွင် ရခိုင်ပြည်၌ အမတ် (၃) ဦးက နန်းလုကြရာ မင်းဆွေမင်းမျိုးတို့မှာ နီလာပန်းတောင်းတွင် နေလာကြသည်။ ထိုစဉ် အိန္ဒိယအရှေ့ပိုင်း ကမ္ဗုရူပတိုင်းမှ ကမ္ဗရာဇာသည် နောက်ပါများနှင့် ကျောက်ပန်းတောင်းတွင် နေလာသည်။ ဒေသခံအရပ်သားတို့သည် မကြာမီ ကမ္ဗရာဇာတို့နှင့် ပူးပေါင်း

[2] ရခိုင်သုတညွန်ဖူးများစာအုပ်မှ တိုက်ရိုက် ကူးယူဖော်ပြခြင်းဖြစ်သည်။

သွားကြသည်။ ဘီစီ ၁၄၃၈ တွင်ဆင်းသက်လာကြပြီး ဒုတိယဓညဝတီမြို့တော်ကို တည်ထောင်လေသည်။

## စန္ဒသူရိယ (ဘီစီ ၅၈၀ - ၅၂၈)

မင်းကြီးသည် ဓညဝတီမြို့တော်ကို တောင့်တင်းခိုင်မာအောင် ပြုလုပ်ခဲ့သည်။ ဤမင်းလက်ထက် ဘီစီ ၅၅၄ တွင် ဗုဒ္ဓသျှင်တော်သည် ရခိုင်ပြည်သို့ ကိုယ်တော်တိုင် ကြွရောက်ခဲ့သည်ဟု ရခိုင်ရာဇဝင်တို့က ဆိုသည်။ ဗုဒ္ဓသျှင်တော်သည် သေလာဂီရိ ကျောက်တော်တောင်မှနေ၍ ရခိုင်ပြည်တွင် ပေါ်ထွက်လာမည့် ဓာတ်တော် စေတီတော်တို့ကို ဗျာဒိတ်ပေးခဲ့ကြောင်းနှင့် စန္ဒသူရိယ မင်းကြီးက ဗုဒ္ဓသျှင်တော်ကိုယ်စား မဟာမြတ်မုနိ သျှင်တော်ကို သွန်းလုပ်ခဲ့ကြောင်း ဆိုသည်။ မင်းကြီးလက်ထက်မှစ၍ ရခိုင်ပြည်တွင် ဗုဒ္ဓသာသနာ ပြန့်ပွါးလာလေသည်။ သူ၏ သူရိယမင်းဆက်သည် အေဒီ ၃၂၇ အထိ ရှည်ကြာခဲ့သည်။ တတိယဓညဝတီမြို့ဟောင်းဟူ၍ ယနေ့ မဟာမုနိဘုရား ပတ်ဝန်းကျင်တွင် တွေ့နိုင်ပါသေးသည်။

## သူရိယစက္က (ဘီစီ ၃၁၆ - ၂၇၂)

သူရိယမင်းဆက်မှ မင်းတပါးဖြစ်သည်။ မင်းကြီးလက်ထက် အိန္ဒိယမဇ္ဈိမဒေသမှ ဓာတ်တော်များနှင့်အတူ ရဟန်းတော်များ ကြွချီလာသဖြင့် ရခိုင်၌ ဓာတုသာသနာ စတင် ကျယ်ပြန့်ခဲ့လေသည်။ မင်းကြီး၏ ကုသိုလ်တော် စေတီ (စတူပါ)များမှာ နွားလားဥသဘာ တမော့(၉ - ပေခန့်) စီ ရှိသည်ဟူ၏ ။

## ဒွေင်စန္ဒြ ( အေဒီ ၃၂၇ - ၃၈၂)

ရခိုင်ရာဇဝင်တွင် မဟာတိုင်းစန္ဒရားဟုတွင်သည် ။ မင်းကြီးသည် တရာ့တပါးသော မင်းတို့ကို သိမ်းသွင်းအောင်မြင်ပြီး အေဒီ ၃၂၇ တွင် နတ်ပြည်၏လှပခြင်းကို ပျက်ရယ်ပြုလောက်အောင်လှပသည့် (ဝေသာလီကျောက်လှေကား) မြို့တော်ကို တည်ထောင်တော်မူသည်။ မင်းကြီးနှင့် အဆက်အနွယ်တို့သည် ဧကရာဇ်လက်နက်နိုင်ငံတော်ကို တည်ထောင်ခဲ့လေသည်။ သူ၏မင်းဆက်ကို စန္ဒြားမင်းဆက်ဟု ခေါ်၏။

## နီတိစန္ဒြ (အေဒီ ၄၇၇ - ၅၃၁)

ဤမင်းကြီးသည် နိုင်ငံရေး၌ အထူးကျွမ်းကျင်တတ်မြောက်သည်။ မင်းကြီးလက်ထက် ဗုဒ္ဓဘာသာ ကြီးကျယ်ထွန်းကားအောင် အထူးပြုစု ဆောင်ရွက်သည်။ မင်းကြီးလက်ထက်သည် တိုးတက်ခဲ့ပြီး ရွှေရောင်လွှမ်းမိုးသည့်ခေတ်လည်း ဖြစ်ခဲ့လေသည်။

## သီရိစန္ဒြား (အေဒီ ၅၉၂ - ၆၆၇)

ရခိုင်ရာဇဝင်အရ ဝေသာလီ ဘုရင်တပါးဖြစ်သည်။ မင်းကြီးသည် သက္ကရာဇ် ဖြိုခွင်းကာ ယခု ရခိုင်သက္ကရာဇ်ကို စတင်ခဲ့သည်ဟူ၏ ။ ထို့ပြင် သင်္ဂါယနာလည်း တင်ခဲ့သည်ဟူ၏ ။

## အာနန္ဒစန္ဒြား (အေဒီ ၆၇၇ - ?)

ဝေသာလီမင်းဆက်တွင် နှစ်ဆဲ့နှစ်ဆက်မြောက် မင်းဖြစ်လေသည်။ မင်းကြီးသည် ဗုဒ္ဓသာသနာတော် ပြန့်ပွါးရေးကို အထူးအားပေးခဲ့သည်။ တခြား အယူဝါဒများကိုလည်း မင်းကောင်းမင်းမြတ်တို့ လက္ခဏာနှင့်အညီ အာပေးခဲ့ သည်။ မိမိပိုင်ဥစ္စာများနှင့် အလှူအဒါန်းပြုခဲ့သည်။ တိုင်းပြည်ဘဏ္ဍာဖြင့် ရေတွင်း ၊ ရေကန် ၊ ကျောင်း ၊ ဘုရား ၊ စေတီ ရုပ်တု များစွာကို ပြုလုပ်စေခဲ့ သည်။ မင်းကြီးသည် ရခိုင်ပြည်မှ အသောကမင်းကြီးဟု ခေါ်ဝေါ်ရလောက် အောင် ဆောင်ရွက်ခဲ့သည်။ မင်းကြီးသည် ဘေးတော် ဘီတော်တို့၏ ရာဇဝင် မှတ်တမ်းကြီးကို (၆၅) ဂါထာဖြင့် ဖွဲ့နွဲ့စေခဲ့ပြီး ကျောက်ထက် မော်ကွန်းတင်စေ ခဲ့သဖြင့် ရခိုင်ပြည်၏ ပထမဆုံးသော သမိုင်းရေး မင်းကြီးတပါးအဖြစ် ထင်ရှား သည်။

## စူဠမဟာရာဇာ (အေဒီ ၇၃၃ - ၇၆၉)

မင်းကြီးလက်ထက် ရခိုင်ပြည်သည် အနောက်ဘက်တွင် ဘင်္ဂလား၊ အရှေ့ဘက်တွင် မိုးကောင်း ၊ မိုးညှင်းအထိ ပိုင်ခဲ့သည်။ လက်အောက်ခံ အရှေ့ ဘက် ဘုရင်ခံများ၏ တိုင်းပြည်များမှ အပူဇော်ခံ၍အပြန် နဂရာဇ်အငူတွင် ဖောင်တော်ပျက်၍ ကံကုန်သည်။ မင်းကြီးလွန်ပြီးသည့်နောက် ဝေသာလီသည် မတည်ငြိမ်ဖြစ်ခဲ့ရသည်။

## ခေတ္တသင်မင်း (အေဒီ ၈၁၈ - ၈၂၈)

ပဥ္စာမြို့တည်မင်းဖြစ်သည်။ မြို့တော်မှာ ယခုမြောက်ဦးမြို့၏ အရှေ့ဘက်တွင် ကပ်လျက် စည်ပင်ခဲ့သည်။ တိုင်းနိုင်ငံတည်ငြိမ်ရေးနှင့် စည်ပင်ရေးတို့အတွက် ကြိုးပမ်းခဲ့သည်။

## မင်းရင်ဖြူ (အေဒီ ၈၄၃ - ၈၇၃)

မင်းကြီးသည် ရခိုင်၌ ဝေသာလီနှောင်းခေတ်ကပင် ရောနှောဝင်လာသော တန္တရ ၊ မန္တရ စသည့် အဓမ္မဝါဒီများကို သုတ်သင်ရှင်းလင်းရန် ဇန္ဒဝ ၊ ဘဒ္ဒိယ ၊ နန္ဒိယ ၊ ဥတ္တရ ၊ ရေဝတ စသော ရဟန္တာငါးပါးကို အမှူးပြုလျက် ၈၄၇ တွင် သင်္ဂါယနာ တင်ခဲ့သည်။ ပိဋကတ်တော်များကို ပြန်လည် ရေးကူးတော်မူခဲ့သည်။

## လက်ယာမင်းနန် ( အေဒီ ၁၁၀၃ - ၁၁၀၉)

ပုရိန်မြို့တည်မင်းဖြစ်သည်။ ဘိုးတော်၏ ထီးမွေကို နှစ်ကြိမ်တိုင်တိုင် စစ်ပွဲဆင်နွဲကာ ရယူနိုင်ခဲ့သည်။ ပုရိမ်မြို့ဟောင်းဟု ယခုရှိနေဆဲဖြစ်သည်။ မင်းကြီးလက်ထက် မဟာမုနိ ဆင်းတုတော်သည် ခေတ္တကွယ်လေသည်။ မင်းကြီးသည် ပြည်သူ့အကျိုးပြု မင်းကောင်းဖြစ်ခဲ့သည်။

## ကောလိယ (အေဒီ ၁၁၁၈ - ၁၁၂၃)

မင်းကြီးသည် စာပေကျမ်းဂန် အထူးတတ်ကျွမ်းသည်သာမက စစ်သူရဲကောင်း တပါးလည်းဖြစ်သည်။ ဤမင်းလက်ထက် ရခိုင်နိုင်ငံတော်ကို ချဲ့ထွင်

ခဲ့သည်။ အနောက် ဘင်္ဂလားတလွှားနှင့် အရှေ့ရခိုင်ပြည်တရိုးကို လက်အောက်ခံအဖြစ် သိမ်းသွင်းနိုင်ခဲ့သည်။ မင်းကြီး၏ အလှူတော် မှတ်တမ်းကို လောင်းကြက် တောင်မော် ကျောက်တွင် ရေးထွင်းထားခဲ့သည်။

## ဒသရာဇာ (အေဒီ ၁၁၂၃ - ၁၁၃၉)

ကောလိယတည်ထောင်သော ရခိုင်နိုင်ငံတော်ကို သားတော် ဒသရာဇာသည် ဆက်လက်ထိန်းသိမ်းခဲ့သည်။ လုံအတတ်တွင် အထူးကျွမ်းကျင်ပြီး လှံပျံရမင်း ဆယ်ဆက်မြောက်မင်းဟု ထင်ရှားသည်။ မင်းကြီးသည် ဘိသိက်ခံရာ၌ အထူးအပြား ဆန်းကြယ်စွာ ဆင်ယင်ကျင်းပခဲ့သည်။ မင်းကြီးသည် မဟာမုနိ ဆင်းတုတော်ကို ပြန်လည်တွေ့ရှိ ပူဇော်ခဲ့သည်။

## တိုင်းချစ်မင်း ( အေဒီ ၁၁၆၁ - ၁၁၆၆)

မဥ္ဇူသင်မင်းဟုလည်း ခေါ်သည်။ နေရဥ္စာမြို့တော်ကို တောတန်းကျွန်းတွင် ၁၁၆၂ ခုနှစ်၌ တည်ထောင်သည်။ ဘုန်းလက်ရုံး တောက်ခဲ့သည်။ အရှေ့အရပ်သို့ စစ်ချီခဲ့သည်။ ပိုင်နက်တခိုတွင် ဘုရားပုထိုးများကို တည်ခဲ့သည်။ ပြည်သူတို့က ချစ်သဖြင့် တိုင်းချစ်မင်းဟု ခေါ်ကြသည်။

## သကျဝင်ကြီး ( အေဒီ ၁၂၂၀ - ၁၂၂၂)

မင်းငါးဆက် အနှစ် ၃၀ ကာလဆိုးကို နိဂုံးချုပ်စေသည့် မင်းကောင်းတပါးဖြစ်သည်။ ပြည်တုတ် ပြည်ခွန်ကို ညှာတာစွာ ကောက်သည်။ ခိုးသူ မုဒိန်းကို သုံးကြိမ်ဆုံးမ၍ မရနိုင်မှ နိုင်ငံမှ နှင်လွှတ်သည်။

## နေလုံးမင်း (အေဒီ ၁၂၄၆ - ၁၂၅၀)

မင်းကြီးသည် ရခိုင်၏ အနောက်တံခါးကို လုံခြုံအောင် စွမ်းဆောင်ခဲ့သည်။ အနောက်သို့ စစ်ချီရာမှ ရခဲ့သော သုံ့ပန်း ၄၇၅၀၀ ကို ဘုရင်ပိုင် လုပ်ငန်းဌာနများတွင် ချထားခဲ့သည်။

## အလောမာဖြူ (အေဒီ ၁၂၅၀ - ၁၂၅၆)

မင်းကြီးသည် တိုင်းပြည်နိုင်ငံ ကြီးကျယ်ထွန်းကာလာစေရန် အတွက် လောင်းကြက်မြို့တော်ကို ခိုင်ခံ့စွာ တည်ထောင်လေသည်။ ဤမင်းလက် ထက်နိုင်ငံတော်မှာ ကောလိယမင်းကြီးလက်ထက် နိုင်ငံတော် အဝန်းအထိ ရှိခဲ့သည်။ အမြော်အမြင်ရှိသော မင်းကောင်းတပါးဖြစ်သည်။

## မင်းထီး (အေဒီ ၁၂၈၃ - ၁၃၈၉)

မင်းကြီးသည် ၇ - နှစ်သားအရွယ်တွင် မင်းအဖြစ် တင်မြှောက်ခံရသည်။ တရားဓမ္မနှင့် စည်းကမ်းသေဝပ်မှု ၊ စာရိတ္တကောင်းမွန်မှုတို့ကို အားပေးခဲ့သည်။ တရားဥပဒေပြုရာ၌ ထင်ရှားသည်သာမက ဥပဒေကို ကိုယ်တိုင်လိုက်နာစောင့်ရှောက်ခဲ့သေးသည်။ အပြစ်ရှိသော မိမိလက်ညှိုးကိုပင်ကိုယ်တိုင် ဖြတ်၍ အပြစ်ပေးခဲ့သည်။ မင်းကြီးလက်ထက် နိုင်ငံတော်သည် အနောက်ဘင်္ဂလာ တလွှား ၊ အရှေ့တွင်သရက် ၊ မြောက်ဘက်တွင် အာသံပြည်အထိ ကျယ်ဝန်းခဲ့လေသည်။ လောကသာရပျို့သည် မင်းကြီးလက်ထက်တွင် ပေါ်ထွန်းလာခဲ့သည်။

## မင်းစောမွန် (အေဒီ ၁၄၀၄ - ၁၄၃၃)

မင်းကြီးသည် ပြင်ပမှ သပ်လျှိုခြင်းကို ခံရသဖြင့် အင်းဝထံစစ်ရှုံး၍ ဘင်္ဂလားသို့ တိမ်းရှောင်ခဲ့ရသည်။ ထို့နောက် အနှစ် ၂၀ - ခန့်ကြာပြီးမှ ညီတော် မင်းခရီထိန်းသိမ်းထားသော ရခိုင်နိုင်ငံတော်ကို ပြန်လည်သိမ်းပိုက်သည်။ မင်းကြီးသည် နိုင်ငံတော်အင်အား ပြန်လည် တောင့်တင်းရန်အတွက် စစ်ရေး အချက်အချာကျသော မြောက်ဦးမြို့တော်ကို ကိုယ်ကျိုးမငဲ့ဘဲ ၁၄၃၀ တွင် တည်ထောင်တော်မူသည်။ ထီးနန်းကို အမြော်အမြင်ရှိသော ညီတော် မင်းခရီ သို့သာ လွှဲအပ်ခဲ့သည်။

## မင်းခရီ (အေဒီ ၁၄၃၃ - ၁၄၅၉)

နောင်တော် မင်းစောမွန် ဘင်္ဂလားသို့ တိမ်းရှောင်ရစဉ် ဟံသာဝတီ ရာဇဓိရာဇ်နှင့် မဟာမိတ်ဖွဲ့ဆိုပြီးနောက် နိုင်ငံတော်၏ တည်တံ့မှုကို ဆောင် ရွက်သည်။ နောင်တော်မရှိခိုက် နိုင်ငံတော်ကို ယာယီ အုပ်ချုပ်သည်။ နောင်တော် မင်းစောမွန်ပြန်လာချိန်တွင် ထီးနန်းကို ကြည်ဖြူစွာပင် ပြန်လည် အပ်လေသည်။ မင်းခရီသည် အမျိုးကိုချစ်သော ၊ သဘောထားကြီးသော ၊ အမြော်အမြင်ရှိသော မင်းဖြစ်သည်။ တိုင်းခန်းလှည့်လည်တတ်ပြီး တိုင်းပြည် ပြန်လည်စည်ပင်ရေးအတွက် ကြိုးပမ်းခဲ့သည်။ မြောက်ဦးသည်လည်း သဘော်ာ ဆိပ်ကောင်းမြို့ ဖြစ်လာခဲ့သည်။ သူ၏လက်ထက်၌ စာဆိုစောယဉ်မိသည် ထင်ရှားသည်။ အင်းဝနှင့်လည်း ချစ်ကြည်ရင်းနှီးစွာ ဆက်ဆံနိုင်ခဲ့သည်။

## ဘစောဖြူ(အေဒီ ၁၄၅၉ - ၁၄၈၂)

မင်းကြီးသည် နိုင်ငံ၏အင်အားကို တောင့်တင်းအောင်ပြုခဲ့သည်။ အေဒီ ၁၄၅၉ တွင် စစ်တကောင်းနှင့် စုက္ကရားကို သိမ်းသွင်းသည်။ မင်းကြီး လက်ထက် စာဆိုတော် **ဖဒူမင်းညို**သည် ခြေင်းစပ်ဆိုရာ၌ ထင်ရှားသည်။ မင်းကြီးလက်ထက်တွင် ဗုဒ္ဓသာသနာတော်သည် ပွင့်လင်းခဲ့သည်။ သီဟိုဠ်(သိန်းဃို)ကျွန်းမှ ပိဋကတ်သုံးပုံအစုံတစုံးကို ရတော်မူခဲ့သည်။

## မင်းပင် (ခေါ်) မင်းဘာကြီး (အေဒီ ၁၅၃၁ - ၁၅၅၃)

မင်းကြီးသည် မြောက်ဦးမြို့တော်ကို ဘင်္ဂလားပင်လယ်ကမ်းခြေတွင် အကောင်းဆုံးခံတပ်ဖြစ်အောင် တည်ခဲ့သည်။ ၁၅၃၂ ခုတွင် ဘင်္ဂလားကို သိမ်းသွင်း အောင်မြင်ခဲ့သည်။ တိုင်းပြည်စီးပွါးရေးတိုးတက်ရန်အတွက် ရွှေမျိုးဓမ္မသတ်ကို ပြဋ္ဌာန်းတော်မူခဲ့သည်။ တိုင်းပြည်အုပ်ချုပ်ရေးတွင် တိုင်ပင်ညှိနှိုင်းခြင်းနှင့် အဆင့်ဆင့် တာဝန်ယူဆောင်ရွက်သည့်စနစ်ကို ကျင့်သုံးသည်။ အရည်အချင်းရှိသူကို ရှိသည့်အလျောက် မြှောက်စားသည်။ ရခိုင်တို့၏ ယဉ်ကျေးမှုပြတိုက်အဖြစ် ဂုဏ်ယူလောက်စေသည့် သျှစ်သောင်းပုထိုးတော်ကို တည်ဆောက်ခဲ့သည်။ မင်းကြီး၏ အုပ်ချုပ်ရေးတွင် သျှင်ငယ် မြဝါနှင့် မဟာပညာကျော် တို့သည် လက်ရုံးများ ဖြစ်ခဲ့သည်။



## မင်းတိက္ခာ (အေဒီ ၁၅၅၃ - ၁၅၅၆)

ခမည်တော် မင်းဘာကြီးကို ဆက်ခံသူဖြစ်သည်။ မင်းကောင်းတပါး ဖြစ်ပြီး ကိုးသောင်းပုထိုးတော်ကြီးကို တည်ခဲ့သည်။ ဤပုထိုးတော်ကြီးသည် ရခိုင်တွင် ထုထည်အကြီးဆုံးဖြစ်သည်။

## မင်းဖလောင်း (အေဒီ ၁၅၇၁ - ၁၅၉၃)

နိုင်ငံတော်အုပ်ချုပ်ရေးပီပြင်စေရန်အတွက် စနစ်ကျသော ပြည်ထောင်စု အုပ်ချုပ်ရေးနှင့် ဘုရင်ခံအုပ်ချုပ်ရေးစနစ်ကို ချမှတ်ခဲ့သည်။ သာသနာတော် ပြန့်ပွါးရန် ဓာတုစေတီပေါင်း မြောက်မျာစွာကို မွမ်းမံဆောက်ခဲ့လေသည်။ နိုင်ငံတော်၏ လုံခြုံရေးကို ကျယ်ပြန့်စွာ ဆောင်ရွက်နိုင်ခဲ့သည်။ မဟာပညာကျော် အမတ်မှာ အထူးထင်ရှားလာသည်။ မင်းကြီးလက်ထက်တွင် လျှောက်ထုံး စာပေ နှင့် ဘာသာပြန်စာပေတို့သည် ထွန်းကားခဲ့သည်။ မင်းကြီးသည် ဦးရာဇ်တော် စေတီကို ပြန်လည်တည်ခဲ့သည်။

## မင်းရာဇာကြီး (အေဒီ ၁၅၉၃ - ၁၆၁၂)

မင်းကြီးလက်ထက် နိုင်ငံတော်သည် ထပ်မံ၍ ကျယ်ပြန့်ခဲ့သည်။ ပဲခူး ဟံသာဝတီကို အောင်နိုင်ခဲ့သည်။ ရခိုင်ရေတပ်တော်သည် မုတ္တမပင်လယ်ကွေ့ အထိ ကျက်စားခဲ့သည်။ မင်းကြီးလက်ထက်တွင် ရခိုင်တို့၏ ဘုန်းတန်ခိုးနှင့် တိုးတက်မှုတို့ အမြင့်ဆုံးသို့ ရောက်ခဲ့သည်။ သာသနာတော်သည်လည်း အလွန် လျှင်ပင် ပွင့်လင်းခဲ့သည်။ မင်းကြီးလက်ထက် စာဆို ဥက္ကာပျံ ထင်ရှားသည်။

## မင်းခမောင်း (အေဒီ ၁၆၁၂ - ၁၆၂၂)

မင်းကြီးလက်ထက် ၁၆၁၂ ခုတွင် ပေါ်တူဂီတို့သည် အလုံးအရင်းဖြင့် မြောက်ဦးမြို့တော်ကို ဖြိုဖျက်ရန်လာသည်ကို အောင်မြင်စွာ ချေမှုန်းနိုင်ခဲ့သည်။ ပြည်တွင်းပြည်ပ ပြဿနာများကို အောင်မြင်စွာ ဖြေရှင်းနိုင်ခဲ့သည်။ အရှေ့ဘင်္ဂလားကို ဆက်လက်ထိန်းသိမ်းထားနိုင်ခဲ့သည်။

## သီရိသုဓမ္မရာဇာ (အေဒီ ၁၆၂၂ - ၁၆၃၈)

တိုင်းပြည်ကို ဘုရင်ခံ ၁၂ - ခုအထိ ခွဲခြား၍ အုပ်ချုပ်ခဲ့လေသည်။ မင်းကြီးလက်ထက် ရခိုင်ပြည်သို့ ပေါ်တူဂီဘုန်းတော်ကြီး မန်နရိတ် ရောက်ရှိခဲ့ပြီး မင်းကြီး၏ ခမ်းနားလှသော ဘိသိက်တော်ကို မြင်တွေ့ခဲ့လေသည်။ ကောင်းမှုတော်မှာ သကျမာရ်အောင် စေတီဖြစ်သည်။ မင်းကြီးသည် ၁၆၃၈ တွင် နန်းလုအမတ်ကြီးနရပတိကြောင့် ကံကုန်လေသည်။

## နရပတိကြီး (အေဒီ ၁၆၃၈ - ၁၆၄၅)

အိမ်နိမ့် လောင်းကြက်စားဘဝမှ နန်းလုကာ တက်လာသူဖြစ်သည်။ သက်ဦးဆံပိုင်စနစ်ကို လိုလားသည်။ မင်းသား ၊ မင်းမြေး ၊ မင်းမျိုးမင်းဆွေ ၊ မှူးမတ် ၊ သုခမိန်တို့ကို သတ်ပစ်သည်။ နောင်တရချိန်တွင် အဖတ်ဆည်၍ မရနိုင်ဖြစ်ခဲ့သည်။ ရခိုင်တို့၏ အကျခေတ်ကို စတင်ခဲ့သူ ဖြစ်သည်။

## စန္ဒသုဓမ္မရာဇာ (အေဒီ ၁၆၅၂ - ၁၆၇၄)

နန်းလုမင်း နရပတိကြီး၏ မြေးတော်ဖြစ်သည်။ သူ၏လက်ထက် ၁၆၆၆ ခုနှစ်၌ စစ်တကောင်းမြို့သည် မဂိုလက်သို့ ကျရောက်သွားသည်။ ထို့နောက် ပြည်တွင်းစည်းရုံးရေးကို အားသွန်ခွန်စိုက် ပြုလုပ်ခဲ့သည်။ ဇိနမာရ်အောင် ၊ ရတနာ့မာရ်အောင် ၊ လောကမာရ်အောင်စေတီတို့၏ ဒါယကာတော်မင်း ဖြစ်သည်။

## စန္ဒဝိဇယမင်း ( အေဒီ ၁၇၁၀ - ၁၇၃၁)

၁၆၈၅ မှစ၍ ယိုယွင်းခဲ့သော နိုင်ငံတော်ကို မင်းကြီးသည် ပြန်လည် ရှင်သန်အောင် ဆောင်ရွက်ခဲ့သည်။ ကိုယ်တော်ရံတပ်ကို စည်းကမ်းသေဝပ်ရန် ပြုပြင်ခဲ့သည်။ သူရဲကောင်းများ ၊ ပညာရှိများကို မြှောက်စားခဲ့ပြီး ပြုပြင်ပြောင်း လဲမှုများကို ဆောင်ရွက်ခဲ့သည်။ အရပ်ပေါင်းရှစ်ရာကို ခိုင်မာအောင် ဆောင်ရွက်ခဲ့သည်။ မင်းကြီး၏ နိဂုံးမှာ မလှပခဲ့ချေ။

## နရအဘယရာဇာ ( အေဒီ ၁၇၄၃ - ၁၇၆၂)

မြောက်ဦးအကျခေတ်တွင် နန်းသက်ရှည် အမတ်မျိုးရိုး မင်းတပါးဖြစ် သည်။ ပုန်ကန်မှုပေါင်းများစွာကို ဖြေရှင်းနိုင်ခဲ့သည်။ ရခိုင်ပက္ခဒိန်ကို ပိုမို ကောင်းမွန်အောင် ဆောင်ရွက်ခဲ့သည်။ သာသနာပြုမင်းတပါးဖြစ်ပြီး တရက် လျှင် ပဉ္စင်းတပါး ၊ ရှင်တစ်ပါးစီခံယူပွဲ ပြုလုပ်စေခဲ့သည်။ နန်းသက်ကုန်ခါနီး တွင် ရခိုင်၌ ငလျင်ကြီး သုံးကြိမ်လှုပ်ခဲ့သဖြင့် အလွန်ပင် ပျက်စီးခဲ့သည်။

## အဘယမဟာရာဇာ (အေဒီ ၁၇၆၄ - ၁၇၇၄)

မြောက်ဦးအကျခေတ်တွင် နန်းသက်ရှည်သည့် အမတ်မျိုးရိုးမင်း တပါး ဖြစ်သည်။ အိမ်နိမ့်ဘဝတွင် အုပ်ချုပ်ရေးအတွေ့အကြုံများခဲ့သည်။ သူ၏ လက်ထက်တွင် ဘင်္ဂလားနှင့် ဆက်ဆံရေးသည် ပို၍မပြေမလည် ဖြစ်ခဲ့သည် ။ ပြည်တွင်း၌ တရားဥပဒေစိုးမိုးရေးကို ပီပီပြင်ပြင် မဆောင်ရွက်နိုင်ခဲ့ချေ ။ ငယ်ကျွန် ဓားပိုင်ကြီး ပုန်ကန်နန်းလုသဖြင့် လွှန်လေသည်။

## မဟာသမ္မတမင်း (အေဒီ ၁၇၈၂ - ၁၇၈၅)

ပညာရှိများက သဘောတူ ရွေးချယ်တင်မြှောက်ခဲ့သည် ဘုရင်ဖြစ်သည်။ ၁၇၈၄ ခုနှစ်တွင် ကျူးကျော်လာသော ပြည်ပ အမရပူရရန်ကို ကြံ့ကြံ့ခံခဲ့သည်။ ၁၇၈၅ ခုနှစ်တွင် မြောက်ဦးမြို့တော် ကျပြီးသည့်နောက် အမရပူရသို့ ပါတော်မူ သွားလေသည်။ နောက် ၂ - နှစ်အကြာတွင် သူ့ရပ်မြေ၌ ကံတော် ကုန်သည် ။

## နှစ် အခေါ်အဝေါ်များအကြောင်း

ရာဇဝင် မဟာဝင် စသည့်ရှေ့ဟောင်းနှောင်းဖြစ်များကို လေ့လာသော အခါ ခေတ်ဟူသော အကန့်အသတ်ဖြင့် ပြောဆိုကြပြီး အဆိုပါ ခေတ်ကို ခုနှစ် များဖြင့် သတ်မှတ်ကာ တိကျသေချာမှုကို ပြုကြသည်။

ရခိုင်တွင် **ကုသမင်းသက္ကရာဇ်** ၊ **မဟာသက္ကရာဇ်** ၊ **သာသနာတော်နှစ်** ၊ **ကောဇာသက္ကရာဇ်** ၊ **ရခိုင်သက္ကရာဇ်** ၊ **ခရစ်နှစ်** ၊ **မြန်မာသက္ကရာဇ်** စသည်ဖြင့် ခေတ်ကို သတ်မှတ်ပိုင်းခြားကြလေ့ရှိသည်။ ဘုရားမပွင့်မီ ရှေးကာလကို ရခိုင် တို့က **ကုသမင်းသက္ကရာဇ်**ဟု ပြောဆိုသုံးနှုန်းကြပြီး အလွန်ကြာမြင့်သော

ခေတ်ဟု ညွှန်ဆိုခြင်း ဖြစ်ဟန်တူသည်။ ဂေါတမဗုဒ္ဓ ဘုရားမပွင့်မီ နှင့် ဘုရားပရိနိဗ္ဗာန်မပြုမီ နှစ်တစ်ရာ ခန့်ကာလကို **မဟာသက္ကရာဇ်** ဟု သတ်မှတ်ကြပြီး ၊ ပရိနိဗ္ဗာန်ပြုပြီး မှစ၍ **သာသနာတော်နှစ်**ဟု ရေတွက် ပိုင်းခြားမှု ကို ပြုကြသည်။

ကောဇာသက္ကရာဇ်မှာ အနောက်မဇ္ဈိမဒေသ၏ ပက္ခဒိန်စနစ်နှင့် ညှိနှိုင်း ပြောင်းလဲမှုများရှိသော်လည်း ရခိုင်တို့၏ ကိုယ်ပိုင် ပိုင်းခြားသတ်မှတ်မှုကြောင့် ပေါ်ပေါက်လာသော ခုနှစ်ရေတွက်ပုံဖြစ်သကဲ့ မြန်မာသက္ကရာဇ်သည်လည်း မြန်မာ့နည်း မြန်မာ့ဟန်ဖြင့် ပေါ်ပေါက်လာသော ခုနှစ်ရေတွက်ပုံစံနစ်ဖြစ် သည်။ လထပ်သောနှစ်များမှလွဲလျှင် ရခိုင်နှင့် မြန်မာပက္ခဒိန်မှာ များစွာ ကွာခြားမှုမရှိပေ ။ လထပ်သောနှစ်များတွင်ကား ရခိုင်တွင် တန်းခူးလ နှစ်လ ဟု သတ်မှတ်ပြီး ၊ မြန်မာ့ပက္ခဒိန်တွင်ကား ဝါဆိုလ နှစ်လအဖြစ် သတ်မှတ် သည်။

[3]**ခရစ်နှစ်**မှာ အင်္ဂလိပ်ပက္ခဒိန်ရေတွက်နည်းကို ဆိုဆိုသည်။ ယေရှုခရစ် တော် မွေးဖွားသည့်နှစ်မှ စ၍ ရေတွက်လာသော ခုနှစ်ဖြစ်သောကြောင့် ၎င်းကို **အေဒီ** (A.D = Anno Domini) ခရစ်တော်ပေါ်ပြီးသော ကာလဟု သတ်မှတ် သည်။ ထိုကိုစွဲ၍ ခရစ်တော် မပေါ်မီကာလကို **ဘီစီ** (B.C = Before Christ) ဟု ခေါ်ဝေါ်သတ်မှတ်မှုပြုကြသည်။ အဆိုပါ ဘီစီ (B.C) နှင့် အေဒီ(A.D) ဟူသော အသုံးအနှုန်းများသည် ခရစ်ယာန်ဘာသာသတရားကို ပဓာနပြုကာ သတ်မှတ် ထားသော ရေတွက်နည်းဖြစ်သောကြောင့် နောက်ပိုင်းတွင် ဘာသာရေး လောင်းရိပ်မှ ကင်းလွတ်စေရန်အလို့ငှါ အေဒီ(A.D) နှင့် ဘီစီ(B.C) နေရာတွင်

[3] မြန်မာလူငယ်များအတွက် ကမ္ဘာ့ဘာသာတရားများ မိတ်ဆက်_ဦးမြင့်ဝေ (ကြို့ပင်ကောက်)_၂၀၁၇_အောက်တိုဘာ

**စီအီး**(C.E) နှင့် **ဘီစီအီး**(B.C.E) ဟူသော စကားရပ်ဖြင့် အစားထိုးကာ သုံးစွဲလာခဲ့ကြသည်။

**စီအီး** (C.E = Common or Current Era) မှာ အေဒီ (A.D) အသုံးအနှုန်းအတွက် အစားထိုးခြင်းဖြစ်ပြီး အများသုံးခေတ် (သို့) ယနေ့ခေတ်ဟူသော အဓိပ္ပါယ်ကိုရသည် ။ ထို့အတူ **ဘီစီအီး** (B.C.E = Before Common or Current Era) မှာ အများခေတ်မတိုင်မီ (သို့) ယနေ့ခေတ်မတိုင်မီ ဟူသော အဓိပ္ပါယ်ကိုရသည်။ မည်သို့ပင် ပြောင်းလဲခေါ်ဝေါ်သည်ဖြစ်စေ အင်္ဂလိပ်ခုနှစ်ပိုင်းခြားသတ်မှတ်ချက်မှာ ယေရှုခရစ်တော်ကို ပဓာနပြုကာ သတ်မှတ်ထားခြင်းပင်ဖြစ်သည်။ စီအီး ခုနှစ်များတွင် ကြီးသောဂဏန်းအရေအတွက်နှစ်ထက်ငယ်သော ဂဏန်းအရေအတွက်မှာ ပို၍ရှေးကျသည်။ (ဥပမာ စီအီး ၂၀၂၀ နှင့် စီအီး ၁၉၉၉ တို့တွင် ၁၉၉၉ က ရှေးကျသည်) ။ ဘီစီအီးခုနှစ်ကို ရေတွက်တိုင်းတာသော အခါတွင်ကား ငယ်သောဂဏန်းအရေအတွက်ထက်ကြီးသောဂဏန်းအရေ အတွက်က ပို၍ရှေးကျသည်။ (ဥပမာ - ဘီစီအီး ၃၀၀၀ နှင့် ဘီစီ ၈၀၀ တို့တွင် ဘီစီအီး ၃၀၀၀ က ရှေးကျသည်) ။ C.E နှင့် B.C.E ရေတွက်သတ်မှတ်ပုံကို ဆန့်ကျင်ဘက်အားဖြင့်မှတ်နိုင်သည်။

**သက္ကရာဇ်**ဟူသည်မှာ သက္ကရာဇာ ဟူသော ပါဠိမှပြောင်းလဲရေးသားသောပါဠိပျက်ဝေါဟာရဖြစ်ပြီး သိကြားမင်း(သက္က - သိကြား။ ရာဇာ - မင်း) သည် ကပ္ပါမှ ပညာတတ် မနုရသေ့ဝင်စားသော ကဝါလမိုင်းဆိုသူ နှင့် ပြုလုပ်စီရင်သော ပက္ခဒိန်ဖြစ်သောကြောင့် သက္ကရာဇ်ဟူသောအသုံးဖြင့်မှတ်သားကြသည်။ <u>ခရစ်နှင့်သာသနာနှစ်များကို သက္ကရာဇ်ဟူသောဝေါဟာရနှင့်မတွဲစပ်အပ်ပေ။</u>

ပြီး၏

